ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် ၂/၂၂၀(ခ)(၆)/ (၅၉၉၃ /၂၀၁၄)

ရက်စွဲ ၂၀၁၄ ခုနှစ်၊ ဩဂုတ်လ ၁၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ Shwe Pyi Aye Tours Co., Ltd. သည် မိုးယွန်းကြီးအင်း တောရိုင်းတိရစ္ဆာန်ဘေးမဲ့တောဧရိယာအတွင်းရှိမြေ(၃၆၀)ဧကနှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများကို B.O.T စနစ်ဖြင့် နှစ်(၃၀)ငှားရမ်း၍ အပန်းဖြေစခန်း ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ရန် အဆိုပြုချက်တင်ပြခြင်း

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉-၆-၂၀၁၄ ရက်စွဲပါစာအမှတ်၊ ရက-၆(က)/မ-၁၄၀၆/၂၀၁၄(၆၃၆၈-က)

၁။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန ၊ သစ်တောဦးစီးဌာနပိုင် မိုးယွန်းကြီးအင်း တောရိုင်းတိရစ္ဆာန်ဘေးမဲ့တောဧရိယာအတွင်းရှိ မြေ(၃၆၀)ဧကနှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများကို Shwe Pyi Aye Tours Co., Ltd သို့ B.O.T စနစ်ဖြင့် နှစ်(၃၀)ငှားရမ်း၍ အပန်းဖြေစခန်းဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ရန်အတွက် ငှားရမ်းခွင့်ပြုရန် တင်ပြခဲ့သည့်အပေါ်၌ ကော်မရှင်၏(၁၆/၂၀၁၄)(၁၃-၆-၂၀၁၄) အစည်းအဝေး ဆုံးဖြတ်ချက်အရ Concrete Proposal ပြန်လည်တင်ပြရန်ဆုံးဖြတ်ခဲ့ပါသည်။

၂။ Shwe Pyi Aye Tours Co., Ltd မှ Concrete Proposal အား အောက်ပါအချက်များ ထည့်သွင်းလျက်ပြန်လည်ပေးပို့တင်ပြလာခဲ့ပါသည်-

(က) ရင်းနှီးမြှုပ်နှံလိုသူ၏အဆိုပြုချက်

(ခ) Profit & Loss ဇယားတွင် CSR သုံးစွဲမည့်ရာခိုင်နှုန်း

(ဂ) ကုမ္ပဏီ၏ ဒေသဖွံ့ဖြိုးရေးလုပ်ငန်းဆောင်ရွက်မည့်အစီအစဉ်

(ဃ) လာရောက်လေ့လာမည့် နိုင်ငံခြားသားများ၏ လုံခြုံရေးစီစဉ်ထားရှိမှု

(င) စာချုပ်(မူကြမ်း)နှင့် စာချုပ်(မူကြမ်း) အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်ပြန်ကြားစာ

(စ) စာချုပ်(မူကြမ်း)တွင် ၅ နှစ်စီမံကိန်းဖြင့် နှစ်အလိုက်ဆောင်ရွက်မည့် လုပ်ငန်းများတင်ပြချက်

(ဆ) ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်းနှင့်သင်းဖွဲ့စည်းမျဉ်း

(ဇ) ပတ်ဝန်းကျင်ဆိုင်ရာစီမံခန့်ခွဲမှုစီမံချက် (Environmental Management Plan - EMP)

(ဈ) မိုးယွန်းကြီးအင်း Development Plan နှင့် မြေပုံ

၃။ သို့ဖြစ်ပါ၍ Shwe Pyi Aye Tours Co., Ltd မှ မိုးယွန်းကြီးအင်းတောရိုင်းတိရစ္ဆာန်ဘေးမဲ့တောအတွင်းမြေ(၃၆၀)ဧက နှင့် ယင်းပေါ်ရှိအဆောက်အဦများကို B.O.T စနစ်ဖြင့် နှစ်(၃၀)ငှားရမ်း၍ အပန်းဖြေစခန်းဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ညွှန်ကြားချက်နှင့်အညီရေးဆွဲတင်ပြထားသော Concrete Proposal အားဤစာနှင့်အတူပူးတွဲပေးပို့အပ်ပါသည်။

(ဝင်းထွန်း)
ပြည်ထောင်စုဝန်ကြီး

မိတ္တူ။

- ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

M-576
4/6

စာအမှတ် ၂/၂၂၀(ခ)(၃)/(၃၉၈၆ /၂၀၁၄)
ရက်စွဲ ၂၀၁၄ခုနှစ်၊ဇွန်လ ၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ Shwe Pyi Aye Tours Co,..Ltd သည် မိုးယွန်းကြီးအင်းဘေးမဲ့တောဧရိယာအတွင်းရှိ မြေ(၃၆၀)ဧကနှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများကို B.O.T စနစ်ဖြင့် နှစ်(၃၀)ငှားရမ်း၍ အပန်းဖြေစခန်းဝန်ဆောင်မှုလုပ်ငန်းများဆောင်ရွက်ရန် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြခြင်းကိစ္စ

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၅-၃ -၂၀၁၄ ရက်စွဲပါစာအမှတ် ၊ ၇က-၆(က)မ-၁၄၀၆/၂၀၁၄(၃၂၈၈)

၁။ ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာန ၊ သစ်တောဦးစီးဌာနပိုင် မိုးယွန်းကြီးအင်းဘေးမဲ့တော ဧရိယာအတွင်းရှိ မြေ(၃၆၀)ဧကနှင့် ယင်းမြေပေါ်ရှိအဆောက်အဦများကို ရွှေပြည်အေးခရီးသွားလုပ်ငန်းကုမ္ပဏီလီမိတက်သို့ B.O.T စနစ်ဖြင့် နှစ်(၃၀)ငှားရမ်း၍ အပန်းဖြေစခန်းလုပ်ငန်းဆောင်ရွက်ရန်အတွက် ငှားရမ်းခွင့်ပြုပါရန် အဆိုပြုလွှာတင်ပြခဲ့ပါသည်။

၂။ အဆိုပြုလွှာ တင်ပြချက်အပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၁၃-၃-၂၀၁၄)ရက်နေ့တွင် ကျင်းပပြုလုပ်သော(၁၂/၂၀၁၄) အစည်းအဝေး ဆုံးဖြတ်ချက်အရ ရွှေပြည်အေး ခရီးသွားလုပ်ငန်း ကုမ္ပဏီလီမိတက်မှ ဆောင်ရွက်မည့် အောက်ဖော်ပြပါ အစီအစဉ်များကို နောက်ဆက်တွဲများဖြင့် ပူးတွဲပေးပို့အပ်ပါသည်-

(က) ကုမ္ပဏီ၏ဒေသဖွံ့ဖြိုးရေးလုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်

(ခ) ပတ်ဝန်းကျင်ဆိုင်ရာစီမံခန့်ခွဲမှုစီမံချက်(Environmental Management Plan-EMP)

(ဂ) လာရောက်လေ့လာမည့်နိုင်ငံခြားသားများ၏ လုံခြုံရေးစီစဉ်ထားရှိမှု

(ဃ) Profit & Loss ဇယားတွင် CSR အတွက် သုံးစွဲမည့်ရာခိုင်နှုန်း

(ဝင်းထွန်း)
ပြည်ထောင်စုဝန်ကြီး

မိတ္တူ -ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် ၂/၂၂၀(ခ)(၃)/(၁၀၃၂/၂၀၁၄)
ရက်စွဲ ၂၀၁၄ခုနှစ်၊ ဖေဖော်ဝါရီလ ၁၇ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သစ်တောဦးစီးဌာနပိုင် မိုးယွန်းကြီးအင်း ဘောမဲ့တော ဧရိယာအတွင်းရှိ မြေ(၃၆၀)ဧကနှင့် ၎င်းမြေပေါ်ရှိ အဆောက်အဦများ ရွှေပြည်အေး ခရီးသွားလုပ်ငန်းကုမ္ပဏီလီမိတက်သို့ ငှားရမ်းလုပ်ကိုင်ခွင့် တင်ပြခြင်း

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၄-၁၁-၂၀၁၃ ရက်စွဲပါစာအမှတ်၊ ရက-၆(က)မ-ထွေ/၂၀၁၃/၂၈၅၄၈

၁။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန ၊သစ်တောဦးစီးဌာနပိုင် မိုးယွန်းကြီးအင်းဘောမဲ့တော ဧရိယာအတွင်းရှိ မြေ(၃၆၀)ဧက နှင့် ၎င်းမြေပေါ်ရှိ အဆောက်အဦများကို ရွှေပြည်အေးခရီးသွားလုပ်ငန်းကုမ္ပဏီလီမိတက်သို့ အပန်းဖြေစခန်းလုပ်ဆောင်ရန်အတွက် ငှားရမ်းခွင့်ပြုပါရန် တင်ပြချက်အပေါ် B.O.T ဖြင့် မြေနှင့်အဆောက်အဦများ ငှားရမ်းဆောင်ရွက်မည်ဆိုပါက အဆိုပြုလွှာတွင် ပါဝင်ရမည့် အချက်အလက်များပြုစု၍ တင်ပြရန် ရည်ညွှန်းစာဖြင့် အကြောင်းကြားခဲ့ပါသည်။

၂။ ရွှေပြည်အေးခရီးသွားလုပ်ငန်းကုမ္ပဏီလီမိတက်မှ အပန်းဖြေစခန်းအဖြစ် ဆောင်ရွက်မည့် မြေ(၃၆၀)ဧက နှင့် ၎င်းမြေပေါ်ရှိ အဆောက်အဦများကို B.O.T စနစ်ဖြင့် ငှားရမ်းလုပ်ကိုင်ဆောင်ရွက်ရန်အတွက် ပါဝင်သည့် အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | | |
|---|---|---|---|
| (က) | ငှားရမ်းမည့်မြေဧရိယာ | - | (၃၆၀)ဧကနှင့်၎င်းမြေပေါ်ရှိ အဆောက်အဦများ |
| (ခ) | ငှားရမ်းခနှုန်း | - | တစ်နှစ်လျှင်(၁၅)သိန်း |
| (ဂ) | ငှားရမ်းကာလ | - | ကနဦး(၃၀)နှစ် |
| (ဃ) | ဘဏ်အာမခံငွေ | - | ဘဏ်အာမခံငွေအဖြစ် တစ်နှစ်ငှားရမ်းခကျပ်(၁၅)သိန်းထားရှိပါမည် |
| (င) | မြေအာမခံပရီမီယံ | - | သတ်မှတ်နှုန်းထားအတိုင်းထားရှိမည်ဖြစ်ပါသည်။ |
| (စ) | ပုံသေပိုင်ပစ္စည်းများတန်ဖိုး | - | ကာလတန်ဖိုးကျပ် (၁၈၃.၄၂)သန်း |
| (ဆ) | ကုမ္ပဏီမှထပ်မံရင်းနှီးမြှုပ်နှံမှု | - | ကျပ်(၃၈၀)သန်း |

၃။ သို့ဖြစ်ပါ၍ မိုးယွန်းကြီးအင်းဘောမဲ့တော အပန်းဖြေစခန်း မြေ(၃၆၇)ဧကနှင့် ၎င်းမြေပေါ်ရှိ အဆောက်အဦများ B.O.T စနစ်ဖြင့် ငှားရမ်းလုပ်ကိုင်ခွင့် နှင့် ပတ်သက်၍ သစ်တောဦးစီးဌာနနှင့် ရွှေပြည်အေးခရီးသွားလုပ်ငန်းကုမ္ပဏီလီမိတက်တို့အကြား သဘောတူစာချုပ် ချုပ်ဆိုနိုင်ရေးအတွက် အဆိုပြုလွှာကို အောက်ဖော်ပြပါ အချက်အလက်များဖြင့် ပေးပို့အပ်ပါသည်-

(က) အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် ကုမ္ပဏီ နှင့် ချုပ်ဆိုမည့် B.O.T စာချုပ် (မူကြမ်း)အပေါ် ရှေ့နေချုပ်ရုံး၏ သဘောမှတ်ချက်

(ခ) အဆိုပြုချက် တင်ပြခြင်းနှင့် အခွန်အကောက်ကင်းလွတ်ခွင့်

(ဂ) မြန်မာနိုင်ငံသားများသာ ပိုင်ဆိုင်ကြောင်း ကတိဝန်ခံချက် ၊ ပြည်တွင်းပြည်ပ မှဝယ်ယူမည့် စက်ပစ္စည်းစာရင်း

(ဃ) နှစ်စဉ်ဝန်ဆောင်မှုရည်မှန်းချက်၊ဝန်ဆောင်မှု အစီအစဉ် အရှုံးအမြတ်စာရင်း ၊ ငွေသားစီဆင်းမှုစာရင်း နိုင်ငံတော်ကရရှိမည့် အကျိုးအမြတ် ၊ အလုပ်အကိုင် ရရှိမှုအခြေအနေ

(င) ကနဦးရင်းနှီးမြှုပ်နှံမှုအတွက်လိုအပ်သည့်ကျပ်ငွေနှင့် နိုင်ငံခြားငွေ အထောက် အထား

(စ) လုပ်ငန်းသက်တမ်းကာလ၊ လုပ်ငန်းဆောင်ရွက်မည့် တည်နေရာပြမြေပုံ လ

(ဆ) လုပ်ငန်းခွင့်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေးအစီအစဉ်

(ဇ) လုပ်ငန်းဆောင်ရွက်မည့် မြေနေရာအထောက်အထား

(ဈ) သဘာဝပတ်ဝန်းကျင်ထိခိုက်မှုရှိ/မရှိ

(ည) ပတ်ဝန်းကျင်ရှိ လူတို့၏ ကျန်းမာရေးအား မထိခိုက်စေရန် ၊ အစီအစဉ်

(ဋ) ကုမ္ပဏီမှတ်ပုံတင်ကဒ်နှင့် သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်း

(ဝင်းထွန်း)
ပြည်ထောင်စုဝန်ကြီး

မိတ္တူ - ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

**ပြည်ထောင်စုဝန်ကြီးရုံး**

M-1215
30/10

**စာအမှတ်** ၂ / ၂၂၀(ခ) (၃)( ၃၂၉ /၂၀၁၃)

**ရက်စွဲ** ၂၀၁၃ ခုနှစ်၊ အောက်တိုဘာလ ၂၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ <u>သစ်တောဦးစီးဌာနပိုင် မိုးယွန်းကြီးအင်းဘေးမဲ့တော ဧရိယာအတွင်းရှိ မြေ (၃၆၀)ဧကနှင့် ၎င်းပိုင်မြေပေါ်ရှိအဆောက်အဦများကို ရွှေပြည်အေးခရီးသွား လုပ်ငန်းကုမ္ပဏီလီမိတက်သို့ ငှားရမ်းလုပ်ကိုင်ခွင့်တင်ပြခြင်း</u>

၁။ ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာန ၊ သစ်တောဦးစီးဌာနပိုင် မိုးယွန်းကြီးအင်းဘေးမဲ့တောဧရိယာအတွင်းရှိ မြေ(၃၆၀)ဧကနှင့် ၎င်းမြေပေါ်ရှိ အဆောက်အဦများကို ရွှေပြည်အေးခရီးသွားလုပ်ငန်း ကုမ္ပဏီလီမိတက်သို့ အပန်းဖြေစခန်း လုပ်ငန်းဆောင်ရွက်ရန်အတွက် ငှားရမ်းခွင့်ပြုပါရန် အဆိုပြုလွှာတင်သွင်းခြင်း ဖြစ်ပါသည်။

၂။ မိုးယွန်းကြီးအင်းဘေးမဲ့တောသည် ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ်နှင့်ဝေါမြို့နယ် အတွင်းတွင်တည်ရှိပြီး(၂၅၆၀၀)ဧကကျယ်ဝန်းပါသည်။ မိုးယွန်းကြီးအင်းကြောင့် ရေပျော်နေငှက်များနှင့် ဆောင်းခိုငှက်များ ကျရောက်ကျက်စားရာဒေသဖြစ်ပြီး ကမ္ဘာ့ရေတိမ်ဒေသအဖြစ် အသိအမှတ်ပြုထားသော နေရာတစ်ခုလည်းဖြစ်ပါသည်။ ငှားရမ်းမည့်မြေ (၃၆၀)ဧကပေါ်တွင် ဆောက်လုပ်ထားသည့် လေ့ပုံစံအဆောက်အဦ၊ မိသားစုတည်းခိုဆောင်နှင့် နားနေဆောင်များ ပါရှိပြီး၊ ဒေသတွင်းပြည်သူများနှင့် ကမ္ဘာလှည့်ခရီးသည်များလာရောက်လေ့လာ အပန်းဖြေအနား ယူနိုင်ပါသည်။ ရွှေပြည်အေးခရီးသွားလုပ်ငန်းကုမ္ပဏီလီမိတက်အား အပန်းဖြေစခန်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုခြင်းအားဖြင့် သဘာဝအခြေခံခရီးသွားလုပ်ငန်းဖွံ့ဖြိုးတိုးတက်မှုနှင့်အတူ နိုင်ငံတော် အတွက်လည်း တစ်ဖက်တစ်လမ်းမှ ဝင်ငွေရရှိမည်ဖြစ်ပါသည်။

၃။ ရွှေပြည်အေးခရီးသွားလုပ်ငန်းကုမ္ပဏီလီမိတက်သည် ယခင်ရွှေရည်ဝင်း ကုမ္ပဏီအမည် ဖြင့် သစ်တောဦးစီးဌာနနှင့် ပူးပေါင်း၍ ကျပ်(၁၅၀)သိန်းမတည်ပြီး လေ့ပုံစံအဆောက်အဦ(၉)လုံး နှင့် ထီးပုံစံစားသောက်ဆိုင်ကို ဆောက်လုပ်လှူဒါန်းခဲ့ပြီး ၁၉၉၉ ခုနှစ်တွင် အပန်းဖြေစခန်း ငှား ရမ်းခြင်းကိုဆောင်ရွက်ခဲ့ပါသည်။ ငှားရမ်းကာလအတွင်း နားနေဆောင်များ ထပ်မံဆောက်လုပ်ခြင်း၊

စက်လှေအသစ်(၂)စီးတည်ဆောက်ခြင်းနှင့် ပြုပြင်မွမ်းမံခြင်းလုပ်ငန်းများတွင် ကျပ်သိန်း(၉၀၀) ထည့်ဝင်သုံးစွဲခဲ့ပါသည်။

၄။ သစ်တောဦးစီးဌာနသည် မိုးယွန်းကြီးအင်းဘေးမဲ့တော အပန်းဖြေစခန်းကို ရွှေရည်ဝင်း ကုမ္ပဏီမှ အမည်ပြောင်းထားသည့် ယခုရွှေပြည်အေးခရီးသွားလုပ်ငန်း ကုမ္ပဏီလီမိတက်သို့ ၂၀၀၂ ခုနှစ်တွင် တစ်နှစ်ငှားရမ်းခ ကျပ်(၆)သိန်းဖြင့် လည်းကောင်း၊ ၂၀၀၃ ခုနှစ် ဧပြီလ (၁၁) ရက်နေ့မှစ၍ ၂၀၁၃ခုနှစ်၊ မတ်လ ၃၁ ရက်နေ့အထိ တစ်နှစ်ကျပ်(၇)သိန်းဖြင့်လည်းကောင်း၊ ငှားရမ်းခဲ့ပါသည်။

၅။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၊ စီမံခန့်ခွဲမှုကော်မတီ ၏ ၂၀၁၃ခုနှစ်၊ ဇန်နဝါရီလ ၂၅ ရက်နေ့၌ ပြုလုပ်သော (၄/၂၀၁၃) ကြိမ်မြောက် အစည်းအဝေးမှ မိုးယွန်းကြီးအင်းဘေးမဲ့တော အပန်းဖြေစခန်း မြေ(၃၆၀)ဧကအား တစ်နှစ်လျှင် ကျပ်(၁၅)သိန်း နှုန်းဖြင့် ကနဦးသက်တမ်း(၅)နှစ်သတ်မှတ်၍ သက်တမ်းတိုးငှားရမ်းရန် ဆုံးဖြတ်ခဲ့ပါသည်။ ရွှေပြည်အေးခရီးသွားလုပ်ငန်း ကုမ္ပဏီလီမိတက်သို့ငှားရမ်းမည့် အပန်းဖြေစခန်းနှင့်စပ်လျဉ်းသည့် အဓိကအချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | |
|---|---|
| (က) ငှားရမ်းခနှုန်း | - တစ်နှစ်လျှင်(၁၅)သိန်း |
| (ခ) ငှားရမ်းကာလ | - ကနဦး(၁၀)နှစ် |
| (ဂ) ဘဏ်အာမခံငွေ | - ဘဏ်အာမခံငွေဖြင့်တစ်နှစ်ငှားရမ်းခ ကျပ်(၁၅)သိန်း ထားရှိပါမည်။ |
| (ဃ) မြေအာမခံပရိမိယံ | - သတ်မှတ်နှုန်းထားအတိုင်းထားရှိမည်ဖြစ်ပါသည်။ |
| (င) ပုံသေပိုင်ပစ္စည်းများတန်ဖိုး | - ကာလတန်ဖိုးကျပ်(၁၈၃.၄၂ သန်း) |
| (စ) ကုမ္ပဏီမှထပ်မံရင်းနှီးမြှုပ်နှံမှု | - ကျပ် (၂၆၀)သန်း |

၆။ ရွှေပြည်အေးခရီးသွားလုပ်ငန်း ကုမ္ပဏီလီမိတက်မှ ထပ်မံရင်းနှီးမြှုပ်နှံမည့် လုပ်ငန်းများ သည် သဘာဝအခြေခံခရီးသွားလုပ်ငန်းများကို ဖွံ့ဖြိုးတိုးတက်စေမည့်အပြင် မိုးယွန်းကြီးအင်း ဘေးမဲ့တောအား ကမ္ဘာ့ရေတိမ်ဒေသတစ်ခုအဖြစ် ထိန်းသိမ်းစောင့်ရှောက်ရာတွင် အထောက် အကူပြုနိုင်မည်ဖြစ်၍ ဌာနအတွက် အကျိုးရှိမည်ဖြစ်ပါသည်။

၇။ သို့ဖြစ်ပါ၍ မိုးယွန်းကြီးအင်းဘေးမဲ့တော အပန်းဖြေစခန်း မြေ(၃၆၀)ဧက နှင့် ၎င်းမြေပေါ်ရှိ အဆောက်အဦများ ငှားရမ်းလုပ်ကိုင်ခွင့်နှင့်ပတ်သက်၍ သစ်တောဦးစီးဌာနနှင့် ရွှေပြည်အေးခရီးသွားလုပ်ငန်း ကုမ္ပဏီလီမိတက်တို့အကြား သဘောတူစာချုပ် ချုပ်ဆိုလုပ်ကိုင်ခွင့်ပြုပါ ရန် အောက်ဖော်ပြပါအချက်အလက်များကို နောက်ဆက်တွဲများဖြင့် ပူးတွဲပေးပို့အပ်ပါသည်-

(က) ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ မှတ်ချက်များအရ ပြင်ဆင်ထားသော စာချုပ်မိတ္တူ နှင့် နောက်ဆက်တွဲများ

(ခ) ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်ပြန်ကြားစာ

(ဂ) မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်

(ဃ) ကမ္ဘောဇဘဏ်၌ ဖွင့်လှစ်ထားရှိသည့် ငွေကြေးအထောက်အထားမိတ္တူ

(င) ရွှေပြည်အေး ခရီးသွားလုပ်ငန်းကုမ္ပဏီ၏ ကုမ္ပဏီမှတ်ပုံတင်မိတ္တူ နှင့် ဟိုတယ်လုပ်ငန်းလိုင်စင်

(စ) ရွှေပြည်အေးခရီးသွားလုပ်ငန်းကုမ္ပဏီ၏ အသင်းအဖွဲ့မှတ်တမ်း

(ဆ) ကုမ္ပဏီမှတ်ပုံတင်လက်မှတ်/ပုံစံ(၆)(အစုရှယ်ယာလွှဲပြောင်းမှု)/ပုံစံ(၂၆) (ဒါရိုက်တာစာရင်း)

(ဝင်းထွန်း)
ပြည်ထောင်စုဝန်ကြီး

မိတ္တူ - ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန

D:\7 MOECAF\Section-2\NCW\DSSY\General(9-13).doc

# ရွှေပြည်အေး ခရီးသွားလုပ်ငန်း ကုမ္ပဏီလီမိတက်

# SHWE PYI AYE TOURS CO., LTD.

က

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ်အတွင်း၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်
သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနပိုင်၊
မိုးယွန်းကြီးအင်းဘေးမဲ့တောတွင် အပန်းဖြေစခန်းလုပ်ငန်းများကို

BOT စနစ်ဖြင့်

တည်ထောင်ဆောင်ရွက်ရန်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့

## အဆိုပြုတင်ပြချက်

SHWE PYI AYE TOURS CO., LTD
No. 200, West Shwegonedine (5th) Street, Bahan Township, Yangon, Myanmar.
Ph : (+95)1377182, (+95)0973071709, Email: sywh@myanmar.com.mm

---

သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရုံးအမှတ် (၃၂)၊ နေပြည်တော်။

Shwe Pyi Aye Tours Co., Ltd. No:...... Date......

စာအမှတ် ။ ။ SPA/MIC/2013(1)
ရက်စွဲ ။ ။၂၀၁၄ ခုနှစ်၊ ဖေဖော်ဝါရီလ (၁၇)ရက်။

**အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်ပေးပို့ခြင်း။**

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ **"ရွှေပြည်အေးခရီးသွားလုပ်ငန်း ကုမ္ပဏီ လီမိတက်"(Shwe Pyi Aye Tours Co., Ltd.)**သည် ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ်အတွင်း၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနပိုင်၊ မိုးယွန်းကြီးအင်းဘေးမဲ့တောတွင် . အပန်းဖြေစခန်းလုပ်ငန်းများကို BOT စနစ်ဖြင့် လုပ်ကိုင်ဆောင်ရွက်ရန်နှင့် ခွင့်ပြုမိန့်ရရှိနိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာများကို လိုအပ်သလိုစိစစ် ပေးနိုင်ပါရန် ပေးပို့တင်ပြလျှောက်ထားအပ်ပါသည်။

လေးစားစွာဖြင့်

U Myo Thet
Managing Director
Shwe Pyi Aye Tours Co., Ltd.

# SHWE PYI AYE TOURS CO.,LTD

No. 200, West Shwegonedine (5th) Street, Bahan Township, Yangon, Myanmar.

Ph : (+95)1377182, (+95)0973071709, Email: sywh@myanmar.com.mm


---

သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရုံးအမှတ် (၃၂)၊ နေပြည်တော်။

Shwe Pyi Aye Co., Ltd.
No:..........
Date.........

ရက်စွဲ ။ ။၂၀၁၄ ခုနှစ်၊ ဖေဖော်ဝါရီလ (၁၇)ရက်။

**အကြောင်းအရာ ။ ။ "ရွှေပြည်အေး ခရီးသွားလုပ်ငန်း ကုမ္ပဏီလီမိတက်"Shwe Pyi Aye Tours Co., Ltd. သည် အပန်းဖြေစခန်းလုပ်ငန်းများအတွက် မြန်မာနိုင်ငံသားများ ပိုင်ဆိုင်မှုနှင့်ပတ်သက်၍ ကတိဝန်ခံချက်တင်ပြခြင်း။**

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကျွန်တော်တို့၏ **"ရွှေပြည်အေးခရီးသွားလုပ်ငန်း ကုမ္ပဏီ လီမိတက်"(Shwe Pyi Aye Tours Co., Ltd.)**သည် ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ်အတွင်း၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနပိုင်၊ မိုးယွန်းကြီးအင်းဘေးမဲ့တောတွင် အပန်းဖြေစခန်းလုပ်ငန်းများကို **BOT** စနစ်ဖြင့် လုပ်ကိုင်ဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလျှောက်ထားခဲ့ပါသည်။

၂။ ထိုသို့ အပန်းဖြေစခန်းလုပ်ငန်းများမှာ မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပါသည်။ မည်သည့် နိုင်ငံခြားမှလုပ်ငန်းရှင်များ ပိုင်ဆိုင်ခြင်းမရှိကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

**U Myo Thet**
**Managing Director**
**Shwe Pyi Aye Tours Co., Ltd**

# SHWE PYI AYE TOURS CO.,LTD

No. 200, West Shwegonedine (5th) Street, Bahan Township, Yangon, Myanmar.

Ph : (+95)1377182, (+95)0973071709, Email: sywh@myanmar.com.mm

---

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရက်စွဲ။ ။ ၂၀၁၄-ခုနှစ်၊ ဖေဖော်ဝါရီလ (၁၇) ရက်

အကြောင်းအရာ။ ။ **"ရွှေပြည်အေး ခရီးသွားလုပ်ငန်းကုမ္ပဏီလီမိတက်" (Shwe Pyi Aye Tours Co.,Ltd)မှ အပန်းဖြေစခန်းလုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်ရာတွင် နိုင်ငံတော်မှ ညွှန်ကြားချက်များနှင့် ပတ်သက်၍ ကတိဝန်ခံချက်တင်ပြခြင်း။**

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်တော်တို့၏"ရွှေပြည်အေးခရီးသွားလုပ်ငန်းကုမ္ပဏီလီမိတက်" (Shwe Pyi Aye Tours Co.,Ltd) သည် ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ်အတွင်း ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနပိုင်၊ မိုးယွန်းကြီးအင်းဘေးမဲ့တောတွင် အပန်းဖြေစခန်းလုပ်ငန်းများကို BOT စနစ်ဖြင့် လုပ်ကိုင်ဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလျှောက်ထားခဲ့ပါသည်။

၂။ ထိုသို့အပန်းဖြေစခန်းလုပ်ငန်းများ ဆောင်ရွက်ရာတွင် အမျိုးသားယဉ်ကျေးမှုနှင့်ပတ်သက်၍ ထိန်းသိမ်းသွားနိုင်စေရေးအတွက် သက်ဆိုင်ရာဌာန/အဖွဲ့အစည်းအသီးသီးမှ ညွှန်ကြားချက်များကို သိရှိလိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

SHWE PYI AYE TOURS CO.,LTD
No. 206, West Shwegonedine (5th) Street, Bahan Township, Yangon, Myanmar.
Ph : (+95)1377182, (+95)0973071709, Email: sywh@myanmar.com.mm

---

သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
နေပြည်တော်။

Shwe Pyi Aye Co., Ltd. No:......... Date.........

စာအမှတ် ॥ ॥SPA/MIC/2013(3)
ရက်စွဲ ॥ ॥၂၀၁၄ ခုနှစ်၊ ဖေဖော်ဝါရီလ (၁၇)ရက်။

**အကြောင်းအရာ ॥** ॥ **"ရွှေပြည်အေး ခရီးသွားလုပ်ငန်း ကုမ္ပဏီလီမိတက်" (Shwe Pyi Aye Tours Co., Ltd.)မှ အပန်းဖြေစခန်းလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် ပတ်သက်၍ ကတိဝန်ခံချက်တင်ပြခြင်း။**

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ **"ရွှေပြည်အေးခရီးသွားလုပ်ငန်း ကုမ္ပဏီ လီမိတက်"(Shwe Pyi Aye Tours Co., Ltd.)**သည် ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ်အတွင်း၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနပိုင်၊ မိုးယွန်းကြီးအင်းဘေးမဲ့တောတွင် အပန်းဖြေစခန်း လုပ်ငန်းများကို **BOT** စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြ လျှောက်ထားခြင်းဖြစ်ပါသည်။ ထိုသို့လျှောက်ထားရာတွင် အောက်ပါတို့ကို ဝန်ခံကတိ ပြုအပ်ပါသည်။

(က) ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပါသည်။ ဤလုပ်ငန်းတွင်နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှုမရှိပါကြောင်း ဝန်ခံကတိပြုတင်ပြ အပ်ပါသည်။

(ခ) ဤလုပ်ငန်းသည် လုပ်ငန်းအသစ်ဖြစ်ကြောင်းဝန်ခံကတိပြုပါသည်။

(ဂ) နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့်စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ပါမည်ဟု ကတိပြုပါသည်။

(ဃ) ထို့အပြင် ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်း ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပွားစေရန်အတွက်, လိုအပ်သော အစီအမံများ၊ မီးဘေးကြိုတင်ကာ ကွယ်မှုများ၊ ပြုလုပ်ဆောင်ရွက်ထားမည်ဖြစ်ပါကြောင်းနှင့် ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်၏နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် အကောင်အထည်ဖော် ဆောင်ရွက်သွားမည်ဟု ဝန်ခံ ကတိပြုပါသည်။

(င) အပန်းဖြေစခန်းမှ ထွက်ရှိလာသော စွန့်ပစ်ပစ္စည်းများကို ဥပဒေလုပ်ထုံးလုပ်နည်း များနှင့်အညီ စနစ်တကျ စွန့်ပစ်မည်ဖြစ်ပါသည်။ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနတို့မှ စည်းကမ်းချက်များကိုလည်း လိုက်နာဆောင်ရွက် မည်ဖြစ်ပါသည်။

(စ) မီးဘေးကြိုတင်ကာကွယ်မှုအတွက် အစီအမံများပြုလုပ်သွားမည်ဟု ဝန်ခံကတိပြုပါသည်။

(ဆ) "ရွှေပြည်အေးခရီးသွားလုပ်ငန်းကုမ္ပဏီလီမိတက်" (Shwe Pyi Aye Tours Co.,Ltd .) အနေဖြင့် ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန ၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာနတွင် မှတ်ပုံတင်ထားရှိမည်ဖြစ်ပြီး ၊ ပဲခူးတိုင်းဒေသကြီး၊ တိုင်းအစိုးရအဖွဲ့၏ ကြီးကြပ်မှုကို ခံယူဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(ဇ) ဤလုပ်ငန်းဖြင့် ပြည်ပပို့ကုန်မှရရှိသော နိုင်ငံခြားငွေများကို MICB (သို့မဟုတ်) MFTB ရှိ ကုမ္ပဏီ၏ ငွေစာရင်းသို့ မပျက်မကွက်ပေးသွင်းမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(ဈ) "ရွှေပြည်အေးခရီးသွားလုပ်ငန်းကုမ္ပဏီလီမိတက်" (Shwe Pyi Aye Tours Co.,Ltd .) အနေဖြင့် ဝယ်ယူမည့် စက်ပစ္စည်းများသည် အသစ်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(ည) လျှပ်စစ်မီးအသုံးပြုမှုနှင့်ပတ်သက်၍ မဟာဓာတ်အားလိုင်းမှ လျှပ်စစ်မီးမရရှိသည့်အခါတွင်ကိုယ်ပိုင် Generator (500Kilo Watt) ဖြင့် အသုံးပြုမည်ဖြစ်ပါသည်။

လေးစားစွာဖြင့်

U Myo Thet
Managing Director
Shwe Pyi Aye Tours Co., Ltd.

SHWE PYI AYE TOURS CO., LTD

No. 200, West Shwegonedine (5th) Street, Bahan Township, Yangon, Myanmar.

Ph : (+95)1377182, (+95)0973071709, Email: sywh@myanmar.com.mm

---

## အခွန်ငွေပေးဆောင်ရန်နှင့် ပတ်သက်၍ကတိဝန်ခံချက်

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ **"ရွှေပြည်အေးခရီးသွားလုပ်ငန်း ကုမ္ပဏီလီမိတက်"**(Shwe Pyi Aye Tours Co., Ltd.)သည် ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ်အတွင်း၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနပိုင်၊ မိုးယွန်းကြီးအင်းဘေးမဲ့တောတွင် အပန်းဖြေစခန်းလုပ်ငန်းများကို **BOT** စနစ်ဖြင့် လုပ်ကိုင်ဆောင်ရွက်ရာတွင် ဝန်ထမ်းခန့်ထားရာ၌ တစ်နှစ်လစာငွေကျပ် ၂,၀၀၀,၀၀၀/အထက်ရရှိသော ဝန်ထမ်းများ၏ ဝင်ငွေခွန်ကို သတ်မှတ်ထားသည့်နှုန်းထားအတိုင်းဝန်ထမ်းများ၏ လစာမှနုတ်ယူ၍ နိုင်ငံတော်သို့ ပေးဆောင်သွားမည်ဟု ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

U Myo Thet
Managing Director
Shwe Pyi Aye Tours Co., Ltd.

SHWE PYI AYE TOURS CO.,LTD
No. 200, West Shwegonedine (5th) Street, Bahan Township, Yangon, Myanmar.
Ph : (+95)1377182, (+95)0973071709, Email: sywh@myanmar.com.mm

---

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရုံးအမှတ် (၃၂)၊ နေပြည်တော်

ရက်စွဲ။ ။ ၂၀၁၄ ခုနှစ်၊ ဖေဖော်ဝါရီလ (၁၇)ရက်။

အကြောင်းအရာ။ ။ "ရွှေပြည်အေး ခရီးသွားလုပ်ငန်း ကုမ္ပဏီလီမိတက်" (Shwe Pyi Aye Tours Co.,Ltd.) မှ အပန်းဖြေစခန်း လုပ်ငန်းများ ဆောင်ရွက်ခြင်း အတွက်လျှပ်စစ် ဓာတ်အား အသုံးပြုမှုနှင့်ပတ်သက်၍ ကတိဝန်ခံချက် တင်ပြခြင်း။

၁။ အထက်အကြောင်းအရာပါက ကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကျွန်တော်တို့၏ "ရွှေပြည်အေးခရီးသွားလုပ်ငန်း ကုမ္ပဏီ လီမိတက်" (Shwe Pyi Aye Tours Co.,Ltd.) သည် ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ်အတွင်း၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန ၊ သစ်တောဦးစီးဌာနပိုင်၊ မိုးယွန်းကြီးအင်းဘေးမဲ့တောတွင်အပန်းဖြေစခန်းလုပ်ငန်းများကို BOT စနစ်ဖြင့် လုပ်ကိုင်ဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလျှောက်ထားခဲ့ပါသည်။

၂။ မိုးယွန်းကြီးအင်းဘေးမဲ့တောအပန်းဖြေစခန်းတွင် မဟာဓာတ်အားလိုင်းမှ လျှပ်စစ်ဓာတ်အားသုံးစွဲနိုင်ရန်အတွက် TRANSFORMER (315KVA) တပ်ဆင်ရန်ဆောင်ရွက်လျက်ရှိပါသည်။

၃။ ထိုသို့အပန်းဖြေစခန်းလုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်ရာတွင် လျှပ်စစ်ဓာတ်အားအသုံးပြုမှုနှင့်ပတ်သက်၍ မဟာဓာတ်အားလိုင်းမှ လျှပ်စစ်ဓာတ်အား အလုံအလောက်မရရှိသည့်အခါတွင် ကိုယ်ပိုင် GENERATOR (500 KILO WATT) ဖြင့် အသုံးပြုသွားမည်ဖြစ်ပါကြောင်းဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

U Myo Thet
Managing Director
Shwe Pyi Aye Tours Co., Ltd.

SHWE PYI AYE TOURS CO., LTD

No. 206, West Shwegonedine (5th) Street, Bahan Township, Yangon, Myanmar.

Ph : (+95)1377182, (+95)0973071709, Email: sywh@myanmar.com.mm

Shwe Pyi Aye

No:.......

Date:......

## ပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိစေရန် ဆောင်ရွက်ထားမှုအခြေအနေတင်ပြခြင်း

"ရွှေပြည်အေးခရီးသွားလုပ်ငန်း ကုမ္ပဏီလီမိတက်"(Shwe Pyi Aye Tours Co., Ltd.)သည် ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ်အတွင်း၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနပိုင်၊ မိုးယွန်းကြီးအင်းဘေးမဲ့တောတွင် အပန်းဖြေစခန်းလုပ်ငန်းများကို **BOT** စနစ်ဖြင့် လုပ်ကိုင်ဆောင်ရာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် အပန်းဖြေစခန်းနှင့်အဆောက်အဦးများအတွင်း သန့်စင်ခန်းများထားရှိခြင်း၊ အမှိုက်ပုံးများထားရှိခြင်း၊ အပန်းဖြေစခန်းနှင့် အဆောက်အဦး ပတ်ဝန်းကျင်အား သန့်ရှင်းရေးလုပ်ငန်းများဆောင်ရွက်ခြင်း၊ ရေနုတ်မြောင်းများမှ အနံ့အသက်များမရှိအောင် ရေနုတ်မြောင်းများကို ရေစီးရေလာကောင်းမွန်အောင် ပြုပြင်ခြင်း လုပ်ငန်းများကိုအစဉ်ပြု လုပ်မည်ဖြစ်ပါကြောင်းနှင့် မော်တော်ယာဉ်များ ရေဆေးသန့်စင်ခြင်းမှ ထွက်ရှိမည့် ရေဆိုးများကို စနစ်တကျ စွန့်ပစ်မည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

အပန်းဖြေစခန်းပတ်ဝန်းကျင်တွင် ဆူညံမှုဖြစ်ပေါ်မည်မဟုတ်ပဲ ပတ်ဝန်းကျင်ညစ်ညမ်းမှုကိုလည်း ဖြစ်ပေါ်မည်မဟုတ်ကြောင်းနှင့် အပန်းဖြေစခန်းမှ ထွက်ရှိလာသော အမှိုက်များကိုလည်း စနစ်တကျစွန့်ပစ်မည်ဖြစ်ပါကြောင်းနှင့် လုပ်ငန်းမှဖြစ်ပေါ်လာမည့်အနံ့ဆိုးများ ပျောက်ကင်းစေရန် အငွေ့စုပ်သည့် အပင်များ စိုက်ပျိုးထားရှိမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

**U Myo Thet**
**Managing Director**
**Shwe Pyi Aye Tours Co., Ltd.**

**SHWE PYI AYE TOURS CO.,LTD**

No. 200, West Shwegonedine (5th) Street, Bahan Township, Yangon, Myanmar.

Ph : (+95)1377182, (+95)0973071709, Email: sywh@myanmar.com.mm

Shwe Pyi Aye T ☆
No:.........
Date.........

## လုပ်ငန်းခွင်သာယာရေးနှင့် လုပ်သားများသက်သာချောင်ချိရေး အစီအစဉ်

"ရွှေပြည်အေးခရီးသွားလုပ်ငန်း ကုမ္ပဏီလီမိတက်" (Shwe Pyi Aye Tours Co., Ltd.) သည် ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ်အတွင်း၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနပိုင်၊ မိုးယွန်းကြီးအင်းဘေးမဲ့တောတွင် အပန်းဖြေစခန်းလုပ်ငန်းများကို BOT စနစ်ဖြင့် လုပ်ကိုင်ဆောင်ရွက်ရန်အတွက် လုပ်သားသက်သာ ချောင်ချိရေးအစီအစဉ်ကို အောက်ပါအတိုင်း စီစဉ်ထားပါသည်။

၁။ ဝန်ထမ်းများကို အကြို/ အပို့ မော်တော်ယဉ်များလည်းစီစဉ်ပေးထားမည်ဖြစ်ပါသည်။

၂။ ဟိုတယ်ဝန်ထမ်း ထမင်းစားဆောင်ကိုလည်း တည်ဆောက်ပြီး ထမင်းစားခုံ၊ ကုလားထိုင်၊ ဆပ်ပြာ၊ သန့်ရှင်းရေးသုံးပစ္စည်းများ ဖြည့်ဆည်းပေးပါမည်။

၃။ ရေချိုးခန်းနှင့် အိမ်သာကို အမျိုးသား၊ အမျိုးသမီးခွဲခြားလျှက် အလုံအလောက် တည်ဆောက်ထားရှိမည်ဖြစ်ပါသည်။

၄။ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် သန့်စင်ခန်းများ၊ အမှိုက်ပုံးများထားရှိခြင်း၊ ဟိုတယ်ဝန်းကျင်သန့်ရှင်းမှုရှိစေရန် လုပ်ငန်းဆောင်ရွက်ပေးခြင်း၊ ရေနုတ်မြောင်းများကို တည်ဆောက်၍ သန့်ရှင်းစင်ကြယ်မှုရှိစေရန် အစဉ်ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၅။ ဟိုတယ်အထပ်များတွင် လေဝင်လေထွက်ကောင်းစေရန် စီမံဆောက်ရွက်ထားမည်ဖြစ်ပါသည်။

လေးစားစွာဖြင့်

**U Myo Thet**
**Managing Director**
**Shwe Pyi Aye Tours Co., Ltd.**

# SHWE PYI AYE TOURS CO.,LTD

No. 200, West Shwegonedine (5th) Street, Bahan Township, Yangon, Myanmar.

Ph : (+95)1377182, (+95)0973071709, Email: sywh@myanmar.com.mm


---

## အပန်းဖြေစခန်းလုပ်ငန်းအတွက် မီးဘေးလုံခြုံရေးစီမံချက်

Shwe Pyi Aye Co., Ltd. No:......... Date.........

၁။ ရည်ရွယ်ချက်

"ရွှေပြည်အေးခရီးသွားလုပ်ငန်း ကုမ္ပဏီလီမိတက်"(Shwe Pyi Aye Tours Co., Ltd.)သည် ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ်အတွင်း၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနပိုင်၊ မိုးယွန်း ကြီးအင်းဘေးမဲ့တောတွင် အပန်းဖြေစခန်းလုပ်ငန်းများကို BOT စနစ်ဖြင့် လုပ်ကိုင်ဆောင်ရွက်ရာတွင် မလိုလားအပ်သော မီးဘေးအန္တရာယ်ကြောင့် ငွေကြေးနှင့် အခြားဆုံးရှုံးမှုများ မဖြစ်စေရေးအတွက် ထိရောက်သော ကြိုတင်ကာကွယ်မှုများကို ဆောင်ရွက်သွားရန် ရည်ရွယ်ပါသည်။

၂။ တည်နေရာ

ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ်အတွင်း၊ မိုးယွန်းကြီးအင်းဘေးမဲ့တော

၃။ လုပ်ငန်းတာဝန်

ရည်ရွယ်ချက်အား အောင်မြင်စွာ အကောင်အထည်ဖော်နိုင်ရန် အောက်ပါလုပ်ငန်းတာဝန်များကို လိုက်နာဆောင်ရွက်သွားရမည်ဖြစ်သည်-

(က) မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်ရေးလုပ်ငန်း
(ခ) မီးငြိမ်းသတ်ရေးလုပ်ငန်း
(ဂ) ပြန်လည်နေရာချထားရေးနှင့် ပြန်လည်ထူထောင်ရေးလုပ်ငန်း

၄။ မီးဘေးအန္တာရာယ် ကြိုတင်ကာကွယ်ရေးလုပ်ငန်း

ကြိုတင်ကာကွယ်ရေးလုပ်ငန်းသည် အခြေခံအကျဆုံးနှင့် အထိရောက်ဆုံး လုပ်ငန်းဖြစ်၍ အောက်ပါညွှန်ကြားချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရန်နှင့် အချိန်အခါနှင့် အခြေအနေအရ ဖြည့်စွက်ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်သွားရန်ဖြစ်သည်-

(၁) မီးလောင်စေနိုင်သော အခြေအနေများကို ဖယ်ရှားတားမြစ်ရန်၊

(၂) ဟိုတယ်အတွင်း မီးလောင်စေနိုင်သည့် စွန့်ပစ်ပစ္စည်းများ၊ အမှိုက်များ၊ အမြဲသန့်ရှင်းအောင် ရှင်းလင်းထားရန်။

(၃) လောင်စာဆီများကို သတ်မှတ်ကန့်သတ်ချက်နည်းလမ်းအတိုင်းစနစ်တကျ သိုလှောင်ခြင်း၊ ဖြည့်တင်းခြင်း၊ အသုံးပြုခြင်းနှင့် စွန့်ပစ်ခြင်းများပြုလုပ်ရန်။

(၄) လျှပ်စစ်သွယ်တန်းအသုံးပြုခြင်းကို မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်းမှ ပြဋ္ဌာန်းချက်များ၊ နည်းပညာများအတိုင်း တပ်ဆင်အသုံးပြုသွားရန်။

(၅) အဆောက်အဦးတွင် မြေစိုက်ကြိုးများနှင့် မိုးကြိုးလွှဲများတပ်ဆင်ရန်။

(၆) မီးဘေးကြိုတင်ကာကွယ်ရေး၊ မီးငြိမ်းသတ်ရေးအဖွဲ့များဖွဲ့စည်းပေး၍ နည်းပညာပေးသင်တန်းများပို့ချပေးရန်။

(၇) မီးသတ်ဆေးဗူးများ၊ မီးသတ်ရေပိုက်ခေါင်းများ၊ ရေလှောင်ကန်များ ထားရှိရန်။

၅။ မီးငြိမ်းသတ်ရန် ကြိုတင်လုပ်ငန်းများ

မီးလောင်မှု မဖြစ်ပွားရေးအတွက် ကြိုတင်ကာကွယ်ရေးနှင့် မီးလောင်မှုဖြစ်ပွား လာပါက အောက်ပါအတိုင်း လုပ်ငန်းများကို စနစ်တကျ လိုက်နာဆောင်ရွက်သွားရမည်။

(၁) ဟိုတယ်အဆောက်အဦးနှင့် လိုအပ်သော နေရာတိုင်းတွင် မီးသတ် ဆေးဗူးများ၊ ရေပုံး၊ မီးသတ်ပိုက်လိုင်းများထားရှိရမည်။

(၂) အလိုအလျောက် မီးအချက်ပေးစနစ်နှင့် အချက်ပေးသံချောင်းများ တပ်ဆင်ရမည်။

(၃) မီးလှန့်အချက်ပေးသည့်စနစ်ကို သတ်မှတ်ထားရမည်။

(၄) မီးလောင်လျှင် ဦးစားပေးငြိမ်းသတ်ရေးကို သတ်မှတ်ရမည်။

(၅) မီးဘေးလုံခြုံရေးဝန်ထမ်းကိုနေ့စဉ်တာဝန်ချထားရမည်။

(၆) ဟိုတယ်ဆောက်ရာတွင် အရေးပေါ်ထွက်ပေါက်များ၊ လှေခါးများကိုစနစ်တကျထားရှိရမည်။

(၇) မီးလောင်မှုဖြစ်ပွားပါက အောက်ပါတို့ကို ချက်ချင်းအရေးတကြီးပြုလုပ်ရမည်-

(က) အချက်ပေးခေါင်းလောင်းခေါက်ခြင်း
(ခ) မီးသတ်ဦးစီးဌာနသို့ အမြန်ဆုံးမီးသတ်ကား လာရောက်ငြိမ်းသတ်နိုင်ရန် လမ်းညွှန်အကြောင်းကြားခြင်း။
(ဂ) ဦးစားပေးပစ္စည်းများ မီးလွတ်ရာသို့ ရွှေ့ပြောင်းခြင်း၊
(ဃ) မီးငြိမ်းသတ်ခြင်း၊

၆။ ပြန်လည်နေရာချထားရေးနှင့် ပြန်လည်ထူထောင်ရေးလုပ်ငန်း

အကယ်၍ မီးလောင်မှုကြောင့် လူနှင့်စက်ပစ္စည်းများကို အရေးပေါ်ပြောင်းရွှေ့မှုများ ပြုလုပ်ခဲ့ရသဖြင့် ထိခိုက်မှု၊ ဆုံးရှုံးမှုများရှိပါက တာဝန်ရှိကြီးကြပ်သူများသို့ တင်ပြ၍ နေရာ ချထားပေးခြင်း၊ ဆေးပေးခန်း၊ ဆေးရုံသို့ ပို့ဆောင်၍ ဆေးကုသမှုခံယူစေခြင်းနှင့်ကူညီ ထောက်ပံ့မှုပေးခြင်းတို့ကို ဆောင်ရွက်ပါမည်။

လေးစားစွာဖြင့်

U Myo Thet
Managing Director
Shwe Pyi Aye Tours Co., Ltd.

# SHWE PYI AYE TOURS CO.,LTD

No. 200, West Shwegonedine (5th) Street, Bahan Township, Yangon, Myanmar.

Ph : (+95)1377182, (+95)0973071709, Email:sywh@myanmar.com.mm

---

Shwe Pyi Aye Co., Ltd. No:......... Date.........

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
နေပြည်တော်။

စာအမှတ် ။ ။SPA/MIC/2014(2)
ရက်စွဲ ။ ။၂၀၁၄ ခုနှစ်၊ ဖေဖော်ဝါရီလ၊ (၁၇)ရက်။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၁)၊ ပုဒ်မ (၂၀)အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များလျှောက်ထားခြင်း။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသည့် **"ရွှေပြည်အေး ခရီးသွားလုပ်ငန်း ကုမ္ပဏီလီမိတက်" (Shwe Pyi Aye Tours Co., Ltd.)**သည် ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ်အတွင်း၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနပိုင်၊ မိုးယွန်းကြီးအင်းဘေးမဲ့တောတွင် အပန်းဖြေစခန်းလုပ်ငန်းများကို **BOT** စနစ်ဖြင့် လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီး မြှုပ်နှံမှုခွင့်ပြုမိန့် **(Permit)**ကို လျှောက် ထားအပ်ပါသည်။

၂။ အပန်းဖြေစခန်းအတွက် စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ကျပ်(၉၃၆)သန်းတွင် ငွေသားကျပ်(၁၅၀)သန်း၊ စက်ပစ္စည်းကိရိယာတန်ဖိုး ပြည်တွင်းကျပ် (၁၄၉)သန်း။ အဆောက်အအုံနှင့်လုပ်ငန်းသုံးပစ္စည်းကျပ်(၅၇၈)သန်း၊ ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းတန်ဖိုးကျပ် (၂၃)သန်း၊ အပန်းဖြေစခန်းလုပ်ငန်းသုံးပစ္စည်းများ တန်ဖိုးကျပ်(၃၆)သန်းတို့ဖြင့် ထည့်ဝင်ရင်းနှီးမြှုပ်နှံမည် ဖြစ်ပါသည်။

၃။ ဤလုပ်ငန်း၏ သက်တမ်းကို ကနဦး နှစ် (၃၀)ဖြင့် စတင်ဆောင်ရွက်မည်ဖြစ်ပါသည်။

၄။ သို့ဖြစ်ပါ၍ နိုင်ငံတော်အတွက် အခွန်ဘဏ္ဍာငွေများ ရရှိစေရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင်သစ်များ ပေါ်ပေါက်လာစေရန်အတွက်လည်းကောင်း၊ အပန်းဖြေစခန်းလုပ်ငန်းနည်းပညာရပ်များတိုးတက်လာစေရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံ၏စီးပွားရေးဖွံ့ဖြိုး တိုးတက်လာစေရန်အတွက်လည်းကောင်း၊ ပြည်တွင်း၊ ပြည်ပမှ ခရီးသွားဧည့်သည်များ အဆင်ပြေစေနိုင်ရန်အတွက်လည်းကောင်း၊ ကျွန်တော်တို့လျှောက်

ထားခြင်းကို လက်ခံစဉ်းစားပေးပါရန်နှင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း (၁၁)၊ ပုဒ်မ (၂၀)အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်တို့ကိုလည်း ခံစားခွင့်ပြုပါရန်လျှောက်ထားအပ်ပါသည်။

၅။ အဆိုပါရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အနေဖြင့် ခွင့်ပြုမိန့်ထုတ်ပေးနိုင်ရန် ဤလျှောက်လွှာနှင့်အတူ အောက်ဖော်ပြပါ အထောက် အထားစာရွက်စာတမ်းများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ကမကထပြုသူ၏ လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက်၊
(ခ) ဘဏ္ဍာရေးအချက်အလက်များနှင့် ပတ်သက်၍ တွက်ချက်မှုဇယားများ၊
(ဂ) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေးအထောက်အထားများ၊
(ဃ) သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း၊

လေးစားစွာဖြင့်

U Myo Thet
Managing Director
Shwe Pyi Aye Tours Co., Ltd.

# SHWE PYI AYE TOURS CO.,LTD

No. 200, West Shwegonedine (5th) Street, Bahan Township, Yangon, Myanmar.

Ph : (+95)1377182, (+95)0973071709, Email:sywh@myanmar.com.mm

---

Shwe Pyi Aye Co., Ltd.

သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရုံးအမှတ် (၃၂)၊ နေပြည်တော်။

ရက်စွဲ။ ။၂၀၁၄ ခုနှစ်၊ ဇွန်လ၊ (   )ရက်။

အကြောင်းအရာ။ ။**"ရွှေပြည်အေး ခရီးသွားလုပ်ငန်း ကုမ္ပဏီလီမိတက်"(Shwe Pyi Aye Tours Co., Ltd.)မှ အပန်းဖြေစခန်လုပ်ငန်းများလုပ်ကိုင်ဆောင်ရွက်ရာတွင် CSR လျာထားခြင်းကိစ္စ။**

အထက်အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကျွန်တော်တို့၏ **"ရွှေပြည်အေးခရီးသွားလုပ်ငန်း ကုမ္ပဏီ လီမိတက်"(Shwe Pyi Aye Tours Co., Ltd.)**သည် ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ်အတွင်း၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနပိုင်၊ မိုးယွန်းကြီးအင်းဘေးမဲ့တောတွင် အပန်းဖြေစခန်းလုပ်ငန်းများကို **BOT** စနစ်ဖြင့် လုပ်ကိုင်ဆောင်ရွက်ရာတွင် **CSR (Corporate Social Responsibility)** အတွက် **Net Profit** ၏ (၂%)ကို လျာထား၍ အောက်ဖော်ပြပါ လုပ်ငန်းများတွင် သုံးစွဲသွားမည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

(၁) ပညာရေးကဏ္ဍ ဖွံ့ဖြိုးတိုးတက်ရေး လုပ်ငန်းများအတွက် (၂၀%)
(၂) ကျန်းမာရေးကဏ္ဍ ဖွံ့ဖြိုးတိုးတက်ရေးလုပ်ငန်းများအတွက် (၂၀%)
(၃) လူမှုရေးကဏ္ဍ ဖွံ့ဖြိုးတိုးတက်ရေးလုပ်ငန်းများအတွက် (၂၀%)
(၄) သဘာဝဘေးအန္တရာယ် ကာကွယ်ရေးလုပ်ငန်းများအတွက် (၂၀%)
(၅) ဒေသဖွံ့ဖြိုးတိုးတက်ရေးလုပ်ငန်းများအတွက် (၂၀%)

လေးစားစွာဖြင့်

ဦး Myo Thet
Managing Director
Shwe Pyi Aye Tours Co., Ltd.

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

## ရင်းနှီးမြှုပ်နှံလိုသူ၏

## အဆိုပြုချက်

ပုံစံ (မနသ-၁)

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ

## ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်

## ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဂ)နှင့် ပုဒ်မ ဂ

သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရုံးအမှတ် (၃၂)၊ နေပြည်တော်။

စာအမှတ် ။ ။ **SPA/MIC/2013(4)**
ရက်စွဲ ။ ။ ၂၀၁၄ ခုနှစ်၊ ဖေဖော်ဝါရီလ (၁၇)ရက်။

ကျွန်ုပ်/ကျွန်မသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံလိုပါသဖြင့် ခွင့်ပြုပါမိန့်ထုတ်ပေးပါရန် အောက်ပါအချက်များကိုဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏

(က) အမည် - ဒေါက်တာမျိုးသက်
(ခ) အဖအမည် - ဦးကျောက်ခဲ
(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် - ၁၂/လမန(နိုင်) ၀၆၄၃၃၉
(ဃ) နေရပ်လိပ်စာ - အမှတ် (၈၇/ဘီ)၊ တံတားဖြူကန်လမ်း၊ အမှတ် (၁၀)ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။
(င) လူမျိုး/ဘာသာ - မြန်မာ၊ ဗုဒ္ဓဘာသာ
(စ) အဖွဲ့အစည်းအမည် - ရွှေပြည်အေးခရီးသွားလုပ်ငန်းကုမ္ပဏီ လီမိတက်" **(Shwe Pyi Aye Tours Co., Ltd.**
(ဆ) လုပ်ငန်းအမျိုးအစား - အပန်းဖြေစခန်းနှင့် ဝန်ဆောင်မှုလုပ်ငန်း
(ဇ) အဖွဲ့အစည်းတည်နေရာအရပ် - အမှတ်(၂၀၀)၊ အနောက်ရွှေဂုံတိုင် (၅)လမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုလုပ်မည့်သူများ၏-

(က) အမည် (၁)............ (၂)............
............ ............
(ခ) အဖအမည် (၁)............ (၂)............
............ ............

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ်

(၁)............ (၂).............
............ .............
............ .............

(ဃ) နေရပ်လိပ်စာ (၁)............ (၂).............
............ .............
............ .............

(င) လူမျိုးဘာသာ (၁)............ (၂).............
............ .............
............ .............

(စ) အဖွဲ့အစည်းအမည် .........................

(ဆ) လုပ်ငန်းအမျိုးအစား .........................

(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် .........................
.........................

(နှစ်ဦး သို့မဟုတ် အဖွဲ့အစည်း ၂ ခုထက်ပိုပါက သီးခြားစာရွက်တွင်ဖော်ပြပူးတွဲရန်)

၃။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား-

(က) ကုန်ထုတ်လုပ်မှုလုပ်ငန်း -

(ခ) ဝန်ဆောင်မှုလုပ်ငန်း -အပန်းဖြေစခန်းလုပ်ငန်းများကို BOT စနစ်ဖြင့် လုပ်ကိုင်ဆောင်ရွက်ရန်

(ကုန်ပစ္စည်းအမည် သို့မဟုတ် ဝန်ဆောင်မှုအမျိုးအစားကိုဖော်ပြရန်)

၄။ လုပ်ကိုင်မည့် စီးပွားရေးပုံစံ-

(က) နိုင်ငံသားနှင့် နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း။
..............လီမိတက် ကုမ္ပဏီ...............

(ခ) အဖွဲ့အစည်းနှင့် နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း။
................................

(ဂ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း။
................................

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဍာန်-

(က) တစ်ဦးတည်းပိုင် - ..........................

(ခ) ဖက်စပ်/အစုစပ်လုပ်ငန်း - ..........................

(ဂ) လီမိတက်ကုမ္ပဏီ - **ရွှေပြည်အေးခရီးသွားလုပ်ငန်းကုမ္ပဏီလီမိတက်**

(ဃ) သမဝါယမအသင်း - ..........................

(အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ/အများပိုင် ကုမ္ပဏီဟုဖော်ပြ၍ ထည့်ဝင်မည့် မ,တည်ငွေရင်းအမျိုးအစား၊ စီမံခန့်ခွဲသူ/ စီမံခန့်ခွဲမည့်သူများ၏ အမည်၊ နေရပ်လိပ်စာများနှင့် ရာထူးတို့ကို ပူးတွဲတင်ပြရန်)

၆။ ဖက်စပ်/အစုစပ်လုပ်ငန်းဖြစ်ပါက-

(က) အစုစပ်တို့က ထည့်ဝင်မည့် အစုငွေအချိုးအစားနှင့် ပမာဏ
..................................

(ခ) အကျိုးအမြတ်ခွဲဝေမည့် အချိုးအစား ..........................

(ဂ) အစုဝင်များ၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များ ......................
(နေရာမလုံလောက်က သီးခြားစာရွက်ဖြင့် ဖော်ပြရန်)

၇။ သမဝါယမအသင်း/ လီမိတက်ကုမ္ပဏီဖြစ်ပါက-

(က) ခွင့်ပြုမ,တည်ငွေရင်း -**ကျပ် ၁,၀၀၀,၀၀၀,၀၀၀/ (ကျပ်သန်းတစ်ထောင်တိတိ)**

(ခ) အစုရှယ်ယာအမျိုးအစား- **ကျပ် ၁၀,၀၀၀ တန် ၁၀၀,၀၀၀ အစုရှယ်ယာ**

(ဂ) အစုရှယ်ယာများက ထည့်ဝင်မည့် အစုရှယ်ယာ ပမာဏ- **၁၀၀,၀၀၀ ရှယ်ယာ**
**(ကျပ် ၁,၀၀၀,၀၀၀,၀၀၀)**

၈။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် အဖွဲ့အစည်းနှင့်သက်ဆိုင်သော အချက်အလက်များ-

| (က) မ,တည်ငွေရင်းပမာဏ (သန်းပေါင်း) | ကိုယ်ပိုင် (ကျပ်) | နိုင်ငံခြားငွေ **(US$)** | စုစုပေါင်း (ကျပ်) |
|---|---|---|---|
| (၁) ငွေပမာဏ- | ၁၅၀ | - | ၁၅၀ |
| (၂) စက်ပစ္စည်းကရိယာများ တန်ဖိုးပမာဏ နောက်ဆက်တွဲ (၂) | ၁၄၉ | - | ၁၄၉ |
| (၄) အဆောက်အအုံနှင့် လုပ်ငန်းသုံးပစ္စည်းများ နောက်ဆက်တွဲ (၃) | ၅၇၈ | - | ၅၇၈ |
| (၃) မြေ | - | - | - |
| (၅) ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ တန်ဖိုးပမာဏ နောက်ဆက်တွဲ (၄) | ၂၇ | - | ၂၇ |
| (၆) အပန်းဖြေစခန်း လုပ်ငန်းသုံးပစ္စည်းများ နောက်ဆက်တွဲ (၅) | ၃၆ | - | ၃၆ |
| **စုစုပေါင်း** | ၉၃၆ | - | ၉၃၆ |

(ခ) နိုင်ငံခြားမှ တင်သွင်းရန် လိုအပ်သည့်(သန်းပေါင်း) ကျပ် (၀၀၀) US$(၀၀၀)

| | ကျပ် (၀၀၀) | US$(၀၀၀) |
|---|---|---|
| (၁) စက်ပစ္စည်းများ၊ စက်ကရိယာများ စသည့် ပစ္စည်းတို့၏ တန်ဖိုးပမာဏ | - | - |
| (၂) ကုန်ကြမ်းပစ္စည်းများနှင့် အခြားအလားတူ ပစ္စည်းများ၏တန်ဖိုး | - | - |
| (၃) ကျွမ်းကျင်မှုနည်းပညာရပ်များ၏ တန်ဖိုးပမာဏ | - | - |
| စုစုပေါင်း | - | - |

**US$1 =၉၇၅ ကျပ် (၁. ၈. ၂၀၁၃)**

(ဂ) တည်ဆောက်မှုကာလ - (၂၄) လ

(ဃ) ပမာဏစူးစမ်းလေ့လာမှုပြုလုပ်မည့်ကာလ -

(င) တည်ဆောက်မှု စတင်မည့်အချိန် - ခွင့်ပြုမိန့်ရရှိပြီးလျှင်ပြီးခြင်း လုပ်ငန်းစတင်မည်ဖြစ်ပါသည်။

၉။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းနှင့် သက်ဆိုင်သောအချက်အလက်များ-

(က) လုပ်ငန်းအမျိုးအစား - အပန်းဖြေစခန်းနှင့် ခရီးသွားလုပ်ငန်း (ကုန်ထုတ်လုပ်မှု/ ဝန်ဆောင်မှုစသည့်လုပ်ငန်းဖော်ပြရန်)

(ခ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသများ- မိုးယွန်းကြီးအင်းဘေးမဲ့တော၊ ပဲခူးမြို့နယ်၊ ပဲခူးတိုင်းဒေသကြီး

(ဂ) ဆောင်ရွက်ပုံနည်းစနစ် - မိုးယွန်းကြီးအင်းဘေးမဲ့တောတွင် လာရောက်ကျက်စားသော သဘာဝဆောင်းခိုရှားပါး ငှက်များကို လေ့လာထိန်းသိမ်းဆောင်ရွက်ခြင်းကို အခြေခံသော အပန်းဖြေစခန်းလုပ်ငန်း တစ်ခုဖြစ်ပါသည်။

(ဃ) နှစ်စဉ်စက်သုံးဆီလိုအပ်ချက် -

| | အမျိုးအစား | အရေအတွက် |
|---|---|---|
| ၁။ | ဒီဇယ်ဆီ | ၅,၀၀၀ ဂါလံ |
| ၂။ | ဓာတ်ဆီ | ၁,၀၀၀ ဂါလံ |
| ၃။ | စက်ဆီ၊ ချောဆီ | ၂၀၀ ဂါလံ |

(င) နှစ်စဉ် လျှပ်စစ်ဓာတ်အားလိုအပ်ချက်-

| | အားအသုံးပြုမှု | မြင်းကောင်ရေ |
|---|---|---|
| ၁။ | လျှပ်စစ်ဓာတ်အား | 315 Transformer |
| ၂။ | ဓာတ်ဆီ/ ဒီဇယ်အင်ဂျင်စက်အင်အား | 500 KVA |
| ၃။ | ဘွိုင်လာအသုံးပြုအင်ဂျင်စက်အား | .................. |

၄။ သဘာဝဓာတ်ငွေ့သုံး စက်အား ..................
၅။ ပေးပို့သည့် အခြားအား ..................
(ရေအား/လေအား စသည်များ)

(စ) နှစ်စဉ် ရေလိုအပ်ချက် (နေ့စဉ်ရေလိုအပ်ချက်ရှိလျှင်ဖော်ပြရန်) — နှစ်စဉ်ရေ ၃၆၀,၀၀၀ ဂါလံ တစ်နေ့လျှင် ၁,၀၀၀ ဂါလံ

(ဆ) နှစ်စဉ် လုပ်ငန်းသုံးပစ္စည်း/ ကုန်ကြမ်းလိုအပ်ချက်-

| | အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး (ကျပ်သန်းပေါင်း) |
|---|---|---|---|---|
| ၁။ | အဓိကကုန်ကြမ်း | | | |
| | ၁။ ......... | ........ | ........ | ......... |
| | ၂။ ......... | ........ | ........ | ......... |

နောက်ဆက်တွဲ (၅)

| | | | | |
|---|---|---|---|---|
| ၂။ | အထောက်အကူကုန်ကြမ်း | | | |
| | (၁) ......... | ........ | ........ | ......... |
| | ......... | ........ | ........ | ......... |
| ၃။ | စက်သုံးဆီ/ ဓါတ်ငွေ့များ- | | | |
| | (၁) ......... | ........ | ........ | ......... |
| | (၂) ......... | ........ | ........ | ......... |

(ဇ) အဆောက်အအုံ လိုအပ်ချက်- — -လှေပုံစံအဆောက်အဦး(၂၀)လုံး မိသားစုတည်းခိုဆောင်/ ဘန်ဂလို (၇)လုံး၊ စားသောက် ဆိုင် (၁)ဆောင်၊ သစ်သားနင်းကြမ်း လျှောက်လမ်း (၂)ခု၊ မိလ္လာစု ဆောင်းကန် (၂)လုံး၊ ၂လက်မ အစီစီတွင်း (၂)တွင်း၊ ရေစင် (၁)ခု၊

(ဈ) မြေနေရာအမျိုးအစားနှင့် အကျယ်အဝန်း လိုအပ်ချက် — -မြေ(၃၆၀)ဧက (၀. ၅၆၂၅) စတုရန်းမိုင်

(ည) ခန့်မှန်းထုတ်လုပ်မည့် ကုန်ပစ္စည်း/ဆောက်ရွက်မည့်ဝန်ဆောင်မှု (တစ်နှစ်ပျမ်းမျှ)

| စဉ် | အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး(၀၀၀) |
|---|---|---|---|---|
| (၁) | ......... | ........ | ......... | ........ |
| (၂) | ......... | ........ | ......... | ........ |

နောက်ဆက်တွဲ (၆)

(ဍ) ရောင်းချမည့်နည်းစနစ် - မိုးယွန်းကြီးအင်းဘေးမဲ့တောတွင် လာရောက်ကျက်စားသော သဘာဝ ဆောင်းခိုရှားပါး ငှက်များကို ထိန်းသိမ်းစောင့်ရှောက် လေ့လာခြင်းကို အခြေခံသော အပန်းဖြေစခန်းလုပ်ငန်းတစ်ခု ဖြစ်ပါသည်။

၁၀။ နှစ်စဉ်ကုန်ထုတ်မှု/ ဝန်ဆောင်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ-

| | | ခန့်မှန်းခြေ (သန်းပေါင်း) | |
|---|---|---|---|
| | | ကျပ်ငွေ | နိုင်ငံခြားငွေ |
| (က) | လုပ်ငန်းလည်ပတ်ရန်လိုအပ်မည့်ကျပ်ငွေ | ၉၃၆ | - |
| (ခ) | လိုအပ်မည့် နိုင်ငံခြားသုံးငွေ | - | - |
| (ဂ) | ရရှိမည့်နိုင်ငံခြားသုံးငွေပမာဏ | - | - |
| (ဃ) | ပြည်ပသို့တင်ပို့ရောင်းချနိုင်မည့် | - | - |
| | ကုန်ပစ္စည်း/ ဝန်ဆောင်မှုတန်ဖိုးပမာဏ | - | - |
| (င) | နှစ်စဉ်ပြည်တွင်း၌ ရောင်းချနိုင်မည့် | - | - |
| | ကုန်ပစ္စည်း/ ဝန်ဆောင်မှုတန်ဖိုးပမာဏ | | |

၁၁။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းတွင် လိုအပ်မည့် အမှုထမ်းများစာရင်း-

(က) ပြည်တွင်းမှလိုအပ်မည့် အမှုထမ်းများ-

| အမှုထမ်းအမျိုးအစား | ဦးရေ |
|---|---|
| ဝန်ထမ်း | ၆၀ ဦး |

နောက်ဆက်တွဲ (၁၀)

(ခ) နိုင်ငံခြားမှ လိုအပ်မည့် ကျွမ်းကျင်သူနှင့် အတတ်ပညာရှင်များ-

| ကျွမ်းကျင်မှုအမျိုးအစား | ဦးရေ | ခန့်ထားမည့်အချိန်ကာလ |
|---|---|---|

--------------------မရှိပါ------------------------

၁၂။ စီးပွားရေးတွက်ချေကိုက်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ-

| | | ကျပ်ငွေ (သန်းပေါင်း) | နိုင်ငံခြားငွေ (သန်းပေါင်း) |
|---|---|---|---|
| (က) | နှစ်စဉ်ဝင်ငွေရရှိမှု (နောက်ဆက်တွဲ (၆) | - | - |
| (ခ) | နှစ်စဉ်လုပ်ငန်းကုန်ကျစရိတ် (နောက်ဆက်တွဲ ၇) | - | - |
| (ဂ) | နှစ်စဉ်အသားတင်အမြတ် (နောက်ဆက်တွဲ ၇) | - | - |
| (ဃ) | နှစ်အလိုက်ရင်းနှီးမြှုပ်နှံမှု (ပထမနှစ်)ကျပ် | - | - |
| (င) | အရင်းကျေကာလ | (၆)နှစ်၊ (၁)လ **IRR -29%** | |

(စ) အခြားအကျိုးအမြတ်များ - အလုပ်အကိုင်ပိုမိုရရှိ၍ နည်းပညာသစ်များရရှိပြီး၊ နိုင်ငံတော်အတွက် ဝင်ငွေ ရရှိမည်ဖြစ်ပါသည်။

(ဆ) အလုပ်အကိုင်သစ်များ ပေါ်ပေါက်လာမည့် အခြေအနေ - အလုပ်သမား ၆၀ ဦး အလုပ်အကိုင်ရရှိပါမည်။

နောက်ဆက်တွဲ (၁၀)

၁၃။ ဆောင်ရွက်ရန် အဆိုပြုချက်နှင့် စပ်လျဉ်းသည့် အထောက်အထားများ၊ အဆိုပြုတင်ပြသည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် အောက်ဖော်ပြပါ အထောက်အထားများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပဋိညာဉ်စာချုပ်မူကြမ်း (လိုအပ်သည့်ကိစ္စတွင်)
(ခ) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေးဆိုင်ရာ အထောက်အထားများ၊
(ဂ) လက်ရှိဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါက သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း/ဖွဲ့စည်းခြင်း၊ မရှိသေးပါက သင်းဖွဲ့မှတ်တမ်းမူကြမ်းနှင့် သင်းဖွဲ့စည်းမျဉ်းမူကြမ်း၊

U Myo Thet
Managing Director
Shwe Pyi Aye Tours Co., Ltd.

လက်မှတ်၊ ...............
အမည် ၊ ဒေါက်တာ မျိုးသက်
ရာထူး ၊ မန်နေဂျင်းဒါရိုက်တာ
ရွှေပြည်အေး ခရီးသွားလုပ်ငန်း
ကုမ္ပဏီလီမိတက်

# SHWE PYI AYE TOURS CO., LTD.

## Assumption for Revenue Calculations (Year 1)

၁။ အဆောက်အဦးများ

| အမျိုးအစား | ရေတွက်ပုံ | အရေအတွက် |
|---|---|---|
| (၁) လှေပုံသဏ္ဍာန်အဆောက်အဦး | လုံး | ၂၀ |
| (၂) မိသားစု တည်းခိုခန်း/ ဘန်ဂလို | ခန်း | ၇ |
| (၃) ခန်းမကြီး(အစည်းအဝေး/ညှိခံပွဲ) | ခန်း | ၁ |
| (၄) ငှက်ကြည့်မျှော်စင် | စင် | ၂ |

၂။ စုစုပေါင်း အခန်းငှားရမ်းနိုင်မည့်နှုန်း ၇၀%

-US$ ဖြင့် ၃၀%

-ကျပ်ဖြင့် ၇၀%

၃။ အစားအသောက်မှရရှိမည့် ဝင်ငွေ = အပန်းဖြေစခန်းမှ ရရှိမည့်ဝင်ငွေ၏ ၆၀%

၄။ ခန်းမကြီးငှားရမ်းခြင်းမှရရှိမည့် ဝင်ငွေ = အပန်းဖြေစခန်းမှ ရရှိမည့်ဝင်ငွေ၏ ၂၀%

၅။ အခြား ဝင်ငွေ = အပန်းဖြေစခန်းမှ ရရှိမည့်ဝင်ငွေ၏ ၂၀%

# ရွှေပြည်အေး ခရီးသွားလုပ်ငန်း ကုမ္ပဏီလီမိတက်

## ဒါရိုက်တာအဖွဲ့ဝင် စာရင်း

| စဉ် | အမည် | မှတ်ပုံတင် အမှတ် | ရာထူး | ရှယ်ယာ အရေအတွက် | လိပ်စာ |
|---|---|---|---|---|---|
| ၁။ | ဒေါက်တာ မျိုးသက် | မြန်မာ ၁၂/လမန (နိုင်) ၀၆၄၇၃၉ | မန်နေဂျင်း ဒါရိုက်တာ | ၃၅၀ | အမှတ် (၈၇/ခ)၊ တံတားဖြူကန်လမ်း၊ အမှတ် (၁၀) ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| ၂။ | ဦးဥက္ကာမျိုး | မြန်မာ ၁၂/လမန(နိုင်) ၁၃၃၉၇၃ | ဒါရိုက်တာ | ၁၅၀ | အမှတ် (၈၇/ခ)၊ တံတားဖြူကန်လမ်း၊ အမှတ် (၁၀) ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| ၃။ | ဦးအောင်ဇော်မြင့် | မြန်မာ ၁၂/ဗဟန(နိုင်) ၁၃၇၇၄၃ | ဒါရိုက်တာ | ၃၇၅ | အမှတ် (၂၀၂)၊ ဦးဝိစာရလမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး။ |
| ၄။ | ဒေါ်ခင်တိုးယဉ် | မြန်မာ ၁၂/ဗဟန(နိုင်) ၀၃၉၄၈၅ | ဒါရိုက်တာ | ၃၇၅ | အမှတ် (၂၀၂)၊ ဦးဝိစာရလမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး။ |

# SHWE PYI AYE TOURS COMPANY LIMITED

## ပြည်တွင်းမှ ဝယ်ယူမည့် စက်ပစ္စည်းများ

| အမှတ်စဉ် | ပစ္စည်းအမျိုးအစား | ရေတွက်ပုံ | အရေအတွက် | ဈေးနှုန်း (ကျပ်) | တန်ဖိုး ကျပ် (၀၀၀) |
|---|---|---|---|---|---|
| ၁ | စက်လှေ | စီး | ၃ | ၄၀၀၀၀၀၀ | ၁၂၀၀၀ |
| ၂ | အသက်ကယ်အင်္ကျီ | ထည် | ၃၆ | ၁၀၀၀၀ | ၃၆၀ |
| ၃ | မှန်ဘီလူး | လုံး | ၁၂ | ၃၅၀၀၀ | ၄၂၀ |
| ၄ | လေအေးပေးစက် | လုံး | ၁၄ | ၂၅၀၀၀၀ | ၃၅၀၀ |
| ၅ | ရေခဲသေတ္တာ (ကြီး) | လုံး | ၉ | ၁၀၀၀၀၀ | ၉၀၀ |
| ၆ | ရေခဲသေတ္တာ (သေး) | လုံး | ၄ | ၂၀၀၀၀၀ | ၈၀၀ |
| ၇ | ရုပ်မြင်သံကြားစက် | လုံး | ၁၃ | ၁၂၀၀၀၀ | ၁၅၆၀ |
| ၈ | Sky Net | လုံး | ၁ | ၆၀၀၀၀ | ၆၀ |
| ၉ | 5 Net | လုံး | ၁ | ၅၀၀၀၀ | ၅၀ |
| ၁၀ | အဝတ်လျှော်စက် | လုံး | ၃ | ၂၅၀၀၀၀ | ၇၅၀ |
| ၁၁ | မီးစက်ကြီး (500 KW) | လုံး | ၁ | ၁၈၀၀၀၀၀၀ | ၁၈၀၀၀ |
| ၁၂ | မီးစက်သေး | လုံး | ၁ | ၃၅၀၀၀၀၀ | ၃၅၀၀ |
| ၁၃ | အောက်လင်းမီးအိမ် | လုံး | ၂၅ | ၁၀၀၀၀ | ၂၅၀ |
| ၁၄ | ကွန်ပျူတာ | စုံ | ၂ | ၂၅၀၀၀၀ | ၅၀၀ |
| ၁၅ | Inter Com ဖုန်း | စုံ | ၁ | ၃၀၀၀၀၀ | ၃၀၀ |
| ၁၆ | မော်တော်ယာဉ် | စီး | ၂ | ၂၈၀၀၀၀၀၀ | ၅၆၀၀၀ |
| ၁၇ | Transformer (315 KVA) | လုံး | ၁ | ၅၀၀၀၀၀၀၀ | ၅၀၀၀၀ |
| | စုစုပေါင်း | | | | ၁၄၈၉၅၀ |

နောက်ဆက်တွဲ (၃)

## SHWE PYI AYE TOURS COMPANY LIMITED

### အဆောက်အဦး နှင့် ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများ

| စဉ် | ပစ္စည်းအမျိုးအစား | ရေတွက်ပုံ | အရေအတွက် | ဈေးနှုန်း (ကျပ်) | တန်ဖိုး ကျပ် (၀၀၀) |
|---|---|---|---|---|---|
| ၁ | အဆောက်အဦးများ | | | | |
| ၁ | လှေပုံစံ အဆောက်အဦး | လုံး | ၂၀ | ၁၂၀၀၀၀၀၀ | ၂၄၀၀၀၀ |
| ၂ | မိသားစု တည်းခိုခန်း/ ဘန်ဂလို | လုံး | ၇ | ၂၂၀၀၀၀၀၀ | ၁၅၄၀၀၀ |
| ၃ | ငှက်ကြည့်မျှော်စင် | လုံး | ၂ | ၄၅၀၀၀၀၀ | ၉၀၀၀ |
| ၄ | တံတားများ | စင်း | | | ၇၀၀၀၀ |
| | စုစုပေါင်း | | | | ၄၇၃၀၀၀ |
| ၂ | ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများ | | | | |
| ၁ | အိမ်ရိုက်သံမျိုးစုံ | ပိဿာ | ၂၀၀ | ၄၂၀၀ | ၈၄၀ |
| ၂ | အုတ် | လုံး | ၁၀၀၀၀၀ | ၉၀ | ၉၀၀၀ |
| ၃ | ဘိလပ်မြေ | အိတ် | ၁၀၀၀ | ၅၂၀၀ | ၅၂၀၀ |
| ၄ | သဲ | ကျင်း | ၅၀ | ၇၀၀၀ | ၃၅၀ |
| ၅ | သစ်ခွဲသား (ကျွန်း) | တန် | ၂၀ | ၁၅၀၀၀၀၀ | ၃၀၀၀၀ |
| ၆ | သစ်ခွဲသား (အခြား) | တန် | ၁၀၀ | ၆၀၀၀၀၀ | ၆၀၀၀၀ |
| | စုစုပေါင်း | | | | ၁၀၅၃၉၀ |

# SHWE PYI AYE TOURS COMPANY LIMITED

## ပြည်တွင်းမှ ဝယ်ယူမည့် ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ

| စဉ် | ပစ္စည်းအမျိုးအစား | ရေတွက်ပုံ | အရေအတွက် | ဈေးနှုန်း (ကျပ်) | တန်ဖိုး ကျပ် (၀၀၀) |
|---|---|---|---|---|---|
| ၁ | နှစ်ယောက်အိပ်ကုတင် | လုံး | ၁၂ | ၂၀၀၀၀၀ | ၂၄၀၀ |
| ၂ | တစ်ယောက်အိပ်ကုတင် | လုံး | ၃၀ | ၁၂၀၀၀၀ | ၃၆၀၀ |
| ၃ | စတ်တီ | စုံ | ၂၅ | ၁၅၀၀၀၀ | ၃၇၅၀ |
| ၄ | စတ်တီ ကုလားထိုင် | လုံး | ၅၀ | ၂၈၀၀၀ | ၁၄၀၀ |
| ၅ | စက်တီစားပွဲသေး | လုံး | ၂၅ | ၂၂၀၀၀ | ၅၅၀ |
| ၆ | ဘီဒို | လုံး | ၂၅ | ၁၄၀၀၀၀ | ၃၅၀၀ |
| ၇ | ထမင်းစားစားပွဲရှည် | လုံး | ၁၂ | ၅၀၀၀၀ | ၆၀၀ |
| ၈ | ကုလားထိုင် | လုံး | ၆၀ | ၁၈၀၀၀ | ၁၀၈၀ |
| ၉ | အဝတ်လှန်းစင် | လုံး | ၂၅ | ၃၅၀၀၀ | ၈၇၅ |
| ၁၀ | ပန်ကာ | လုံး | ၂၅ | ၁၅၀၀၀ | ၃၇၅ |
| ၁၁ | နှစ်ယောက်အိပ်မွေ့ယာ | လုံး | ၁၂ | ၃၅၀၀၀ | ၄၂၀ |
| ၁၂ | တစ်ယောက်အိပ်မွေ့ယာ | လုံး | ၃၀ | ၂၅၀၀၀ | ၇၅၀ |
| ၁၃ | စောင် | ထည် | ၇၀ | ၁၂၀၀၀ | ၈၄၀ |
| ၁၄ | အိပ်ယာခင်း | ထည် | ၇၀ | ၁၀၀၀၀ | ၇၀၀ |
| ၁၅ | ခေါင်းအုံး | လုံး | ၁၀၀ | ၄၀၀၀ | ၄၀၀ |
| ၁၆ | ခေါင်းအုံးစွပ် | ထည် | ၁၀၀ | ၁၅၀၀ | ၁၅၀ |
| ၁၇ | ကော်ဇော | လိပ် | ၁၀ | ၇၀၀၀၀ | ၇၀၀ |
| ၁၈ | မျက်နှာသုတ်ပုဝါ | ထည် | ၁၀၀ | ၁၈၀၀ | ၁၈၀ |
| ၁၉ | ရေလဲသုတ်ပုဝါ | ထည် | ၈၀ | ၅၀၀၀ | ၄၀၀ |
| ၂၀ | လိုက်ကာ | ထည် | ၅၀ | ၃၀၀၀ | ၁၅၀ |
| | စုစုပေါင်း | | | | ၂၂၈၂၀ |

KMY Branch LTD.

KBZ BANK
ကမ္ဘောဇဘဏ်လီမိတက်

No.615/1, Pyay Road,
Kamayut Township,
Yangon, Myanmar.
Tel: (+951) 538 075-76,
538 078-80
Fax: (+951) 538 069-71

No 0211210468212

To,

DR. MYO THET
12/LAMANA(N)064339
NO(87-B),U KWUN.ZAW YEIK THAR,TATAR PHYU,KAN ST.
HLAING, YANGON

DEAR SIR,

We hereby certify that the balance standing at the credit of the account of
'R. MYO THET ( 0211210468212) with the KANBAWZA BANK Ltd. (Kamaryut Branch) at the close of
ısiness on the(08 July, 2013) was K 105,010,000.00(One Hundred and Five Million and Ten Thousand
yats Only ).

Yours Faithfully

*Manager*
*Kanbawza Bank Ltd.*
*Kamaryut Branch*

SPECIMEN SIGNATURE(S)

[illegible]

KANBAWZA BANK LTD

Manager

[illegible]

Manager

Type of Account Individual

Signature Requirements

Special Instructions

Account No.- 0211210468212 (Kanbawza Bank Co., Ltd)

Name of Account DR. MYO THET

061697

| Name(s) of Account Holder(s) | NRC/CRC No(s) |
|---|---|
| 1. DR. MYO THET | 12/LAMANA(N)064339 |
| 2. | |
| 3. | |

ANBAWZA BANK LIMITED
KAMAYUT BRANCH
Ph. No. 538072/538073/538074

KBZ BANK
ကမ္ဘောဇဘဏ်လီမိတက်

215985

The use of this passbook is governed by the Bank's Terms and Conditions for Saving Accounts as amended from time to time.

| | Date ရက်စွဲ | Code သင်္ကေတ | Deposit သွင်းငွေ | Withdrawal ထုတ်ငွေ | Balance လက်ကျန် | Official ငွေကြေးအရာရှိ |
|---|---|---|---|---|---|---|
| 1 | 03-07-2013 | CHD | 10,000.00 | 0.00 | 10,000.00 | |
| 2 | | | | | | |
| 3 | 03-07-2013 | CHD | 105,000,000.00 | 0.00 | 105,010,000.00 | |
| 4 | | | | | | |
| 5 | | | | | | |
| 6 | | | | | | |
| 7 | | | | | | |
| 8 | | | | | | |
| 9 | | | | | | |
| 10 | | | | | | |
| 11 | | | | | | |
| 12 | | | | | | |
| 13 | | | | | | |
| 14 | | | | | | |
| 15 | | | | | | |
| 16 | | | | | | |
| 17 | | | | | | |
| 18 | | | | | | |
| 19 | | | | | | |
| 20 | | | | | | |

ဘဏ်မှမထွက်ခွာမီစာရင်းရေးသွင်းချက်များကိုစစ်ဆေးပါ။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပြည်ထောင်စုရှေ့နေချုပ်ရုံး

နေပြည်တော်

၁၀၅၄
၂၈.၃.၁
၁၂:၀၈

စာအမှတ်၊ ၂(၅)၃ - ၂၂ / နပတ(

ရက်စွဲ၊ ၂၀၁၃ ခုနှစ်၊ မတ်လ ၂၅

အကြောင်းအရာ။ သစ်တောဦးစီးဌာနပိုင် မိုးယွန်းကြီးအင်းဘေးမဲ့တောအပန်းဖြေစခန်းငှား ခြင်းစာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ

ရည် ညွှန်း ချက် ။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦ ဌာန၊ ညွှန်ကြားရေးမှူးချုပ်ရုံး၏ ၁၂-၃-၂၀၁၃ ရက်စွဲပါစာအမှတ်၊ ဥယ ရုံး / ရွှေပြည်အေး/ ၁၂၀၅ /၂၀၁၃

၁။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီး ပိုင် မိုးယွန်းကြီးအင်းဘေးမဲ့တောအပန်းဖြေစခန်းအား ငှားရမ်းရန်အတွက် သစ်တောဦးစီးဌာန ရွှေပြည်အေးခရီးသွားလုပ်ငန်းလီမိတက်တို့ ချုပ်ဆိုမည့် ငှားရမ်းခြင်းသဘောတူစာချုပ် (မူကြ အပေါ် သဘောထားမှတ်ချက်ပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့်မေတ္တာရပ်ခံလာသော ကိစ္စ ပါသည်။

၂။ မိုးယွန်းကြီးအင်းဘေးမဲ့တောအပန်းဖြေစခန်းငှားရမ်းခြင်းအတွက် ချုပ်ဆို စာချုပ်(မူကြမ်း)အား သစ်တောဦးစီးဌာနမှ ၃၀-၁၀-၂၀၀၇ ရက်စွဲပါစာအမှတ်၊ ဥယျာဉ်-ငွေ/ ပြည်အေး/ ၁၂၅၅/၂၀၀၇ ဖြင့် တောင်းခံခဲ့ရာ ဤရုံးမှ ၁၅-၁၁-၂၀၀၇ ရက်စွဲပါစာအမှတ်၊ ၂(၅) ၁၆/နပတ ( ၃၂၃ ) ဖြင့် အကြံပြုပြန်ကြားခဲ့ပြီးဖြစ်ကြောင်း၊ ထိုစဉ်က ရွှေပြည်အေးခရီးသ ကုမ္ပဏီသည် လိုအပ်သောအထောက်အထားများတင်ပြနိုင်ခြင်းမရှိခဲ့သဖြင့် စာချုပ်ချုပ်ဆိုနိုင်ခဲ့ခြ



M-017/E/DPKMO/Moe Yongyi (19-3-2013)

မရှိကြောင်း၊ ယခုရွှေပြည်အေးခရီးသွားကုမ္ပဏီ၏ ထပ်မံလျှောက်ထားချက်အရ ၂၅-၁-၂၀၁၃ နေ့ ကျင်းပပြုလုပ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန စီမံခန့်ခွဲ ကော်မတီ၏ ၄/ ၂၀၁၃ ကြိမ်မြောက်အစည်းအဝေးဆုံးဖြတ်ချက်အရ မိုးယွန်းကြီးအင်းဘေးမဲ့တော အပန်းဖြေစခန်းအား ငှားရမ်းလုပ်ကိုင်ခွင့်ပြုခဲ့ကြောင်း၊ ရည်ညွှန်းချက်ပါစာအရ တွေ့ရှိရပါသည်။

၃။ ပေးပို့လာသောစာချုပ်(မူကြမ်း)အပေါ် ဥပဒေရှုထောင့်မှလေ့လာစိစစ်၍ အောက် အတိုင်းသုံးသပ် အကြံပြုအပ်ပါသည်-

(က) စာချုပ်(မူကြမ်း)တွင် အငှားချထားခြင်းခံရသူအား ရွှေပြည်အေးခရီးသွ လုပ်ငန်းလီမိတက်ဟု ဖော်ပြထားပြီး ရည်ညွှန်းချက်ပါစာ အပိုဒ် (၃) တွ ရွှေပြည်အေးခရီးသွားကုမ္ပဏီဟု ဖော်ပြထားပါသဖြင့် ဌာနမှပြန်လည်စိစ ရန်ဖြစ်ပါသည်၊

(ခ) စာချုပ်(မူကြမ်း) အပိုဒ် ၁ ရည်ရွယ်ချက် အပိုဒ်ခွဲ ၁-၁ တွင် အငှားချထားသ မြေပုံအား နောက်ဆက်တွဲ (က) ဖြင့် ဖော်ပြထားကြောင်းပါရှိသော်လည် စာချုပ်(မူကြမ်း)တွင် နောက်ဆက်တွဲပူးတွဲမပါရှိပါသဖြင့် ဌာနမှပြန်လည်စိစ ရန်ဖြစ်ပါ သည်။ ထို့ပြင် မြေကွက်၏ မြေပုံသည် သက်ဆိုင်ရာမြေစာရင်းဦးစီ ဌာနမှ တရားဝင်ရေးဆွဲထားသော မြေပုံဖြစ်ရန်လိုအပ်ပါသည်၊ ၊

(ဂ) စာချုပ်(မူကြမ်း) အပိုဒ် ၁ ရည်ရွယ်ချက် အပိုဒ်ခွဲ ၁-၂ ပါ ငှားရမ်းမည့် မြေ ဧရိယာ(၃၆၀)ဧက (၀.၅၆၂၅ စတုရန်းမိုင်) မှာ မိုးယွန်းကြီးအင်းဘေးမဲ့တော တစ်ခုလုံး(သို့မဟုတ်) ယင်း၏ မည်သည့်အစိတ်အပိုင်းဖြစ်သည်ကို တိကျစွာ ဖော်ပြရန်လိုအပ်ပါသည်။

(ဃ) စာချုပ်(မူကြမ်း) အပိုဒ် ၁ ရည်ရွယ်ချက် အပိုဒ်ခွဲ ၁-၂ တွင် ဖော်ပြထား‌ေ ငှားရမ်းမည့် အဆောက်အဦးများနှင့် ပစ္စည်းများ၏စာရင်းအတိအက နောက်ဆက်တွဲဖြင့်ပြည့်စုံစွာဖော်ပြရန် လိုအပ်ပါသည်

(င) စာချုပ်(မူကြမ်း) စာချုပ်(မူကြမ်း) အပိုဒ် ၁ ရည်ရွယ်ချက် အပိုဒ်ခွဲ ၁-၄ ( ရင်းနှီးမြှုပ်နှံမှုပမာဏအား ကျပ်သိန်း ၅၀၀ ( ကျပ်သိန်းငါးရာ ) အထ ထည့်ဝင်၍လုပ်ကိုင်ဆောင်ရွက်ရန်ဟု ဖော်ပြထားပါသည်။ ရင်းနှီးမြှုပ် ပမာဏနှင့်စပ်လျဉ်း၍ နောင်အငြင်းပွားမှုမဖြစ်ပွားစေရေးအတွက် တိကျ ဖော်ပြသင့်ပါသည်၊

(စ) စာချုပ်ဝင်များသည် မြန်မာနိုင်ငံသားများဖြစ်ကြပြီး နိုင်ငံတော်၏ဥပ များကိုလိုက်နာကြရန် တာဝန်ရှိသည့်အလျောက် စာချုပ်(မူကြမ်း)အပိုဒ် ( အပိုဒ်ခွဲ ၄-၁ တွင်ဖော်ပြထားသော "နိုင်ငံတော် ၏တည်ဆဲဥပဒေပြဋ္ဌာန်းချ များနှင့်အညီဆောင်ရွက်ရန်" စာပိုဒ်ကိုမလိုအပ်၍ပယ်ဖျက်ပေးလိုက်ပါသည်

(ဆ) စာချုပ်(မူကြမ်း) အပိုဒ် ၅ ငှားရမ်းခြင်းသက်တမ်းကာလ၊ အပိုဒ်ခွဲ ၅-၂ တ "ငှားရမ်းခြင်းသက်တမ်းကုန်ဆုံးသည့်အခါ သက်တမ်းတိုးမြင့်ခြင်းကို နှစ် နှစ်ဖက်ညှိနှိုင်းမည်" ဟု ဖော်ပြထားပါသည်။ သက်တမ်းတိုးခြင်းကိစ္စ စပ်လျဉ်း၍ ခွင့်ပြုနိုင်သည့်ကာလ၊ ခွင့်ပြုမည့်အကြိမ်တို့အား ယခုစာချ (မူကြမ်း)တွင် တိကျစွာထည့်သွင်းဖော်ပြရန်လိုအပ်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း)အပိုဒ် ၇ ငှားရမ်းခပေးချေခြင်း၊ အပိုဒ်ခွဲ ၇-၂ တ ငှားရမ်းခနှုန်းထားများအား ၂ နှစ်တစ်ကြိမ်ပြန်လည်စိစစ်၍ ငှားရမ်းခ‌ေ ရရှိသည့်ဝင်ငွေအပေါ်မူတည်၍ ပြန်လည်သုံးသပ်ကောက်ခံရန်သဘော

ကြောင်းဖော်ပြထားပါသည်။ သို့ဖြစ်၍ ရရှိသည့်ဝင်ငွေအား အငှားချထားသူ (ဌာန)မှသိရှိရန်လိုအပ်မည်ဖြစ်ပြီး ဝင်ငွေလျော့နည်းသွားပါက ငှားရမ်းခအား လျော့ပေးရမည့်အနေအထားဖြစ်နေပါသဖြင့် ဌာနမှသတိပြုရန်ဖြစ်ပါသည်၊

(ဈ) စာချုပ်(မူကြမ်း) အပိုဒ် ၉ အငှားချထားခြင်းခံရသူ၏တာဝန်ဝတ္တရားများ အပိုဒ်ခွဲ ၉-၁(၁)တွင် ဟိုတယ်နှင့် အပန်းဖြေစခန်းတည်ဆောက်ရာတွင် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနနှင့် သစ်တောဦးစီးဌာနတို့၏ သတ်မှတ်ထားသည့်စံနှုန်းအတိုင်းတည်ဆောက်ရန် ဖော်ပြပါရှိပါသည်။ စာချုပ်(မူကြမ်း) အပိုဒ် ၁၊ အပိုဒ်ခွဲ ၁-၃ ၊နှစ်အလိုက်ဆောင်ရွက်ရမည့်လုပ်ငန်းများတွင် ဟိုတယ်တည်ဆောက်ခြင်းလုပ်ငန်း မပါရှိသဖြင့် ပြန်လည်စိစစ်ရန်ဖြစ်ပါသည်။ ထို့ပြင် "စံနှုန်းများ" လည်းဖော်ပြထားခြင်းမရှိ ပါသဖြင့် နောင်အငြင်းပွားမှုမဖြစ်ပွားစေရန် စာချုပ်(မူကြမ်း)တွင် သတ်မှတ်ဖော်ပြရန်လိုအပ်ပါသည်၊

(ည) စာချုပ်(မူကြမ်း) အပိုဒ်၁၇ အငြင်းပွားမှု ဖြေရှင်းခြင်းစာပိုဒ်တွင် ဆောင်ရွက်မှုလွယ်ကူစေရေးအတွက် အနုညာတနည်းဖြင့် ဖြေရှင်းမည့်အစား စီရင်ပိုင်ခွင့်အာဏာရရှိသောတရားရုံး၏ အဆုံးဖြတ်ကို ခံယူရမည်ဟူသော စာသားကို ပြင်ဆင်ရေးသားပေးလိုက်ပါသည်၊

(ဋ) စာချုပ်(မူကြမ်း)အပိုဒ် ၂၀ အကြောင်းကြားစာ၊ အပိုဒ်ခွဲ ၂၀-၁(၁)(၂)တို့တွင် ဆက်သွယ်ရမည့်ဖုန်းနံပါတ်၊ ဖက်စ်နံပါတ်တို့အား စာချုပ်ချုပ်ဆိုချိန်တွင် ပြည့်စုံစွာဖော်ပြထားပြီးဖြစ်ရန်လိုအပ်ပါသည်၊

(၄) စာချုပ်(မူကြမ်း)အပိုဒ် ၂၂ ဘဏ်အာမခံငွေ၊ အပိုဒ်ခွဲ ၂၂-၁ တွင်ဖော်ပြထားသောဘဏ်အာမခံငွေနှင့်စပ်လျဉ်း၍ ဘဏ်အာမခံပုံစံကိုစာချုပ်ခွဲပူးတွဲတင်ပြရန်လိုအပ်ပါသည်။ ဘဏ်အာမခံပုံစံမှာ သက်ဆိုင်ရာဘဏ်က သတ်မှတ်ထားသောပုံစံအတိုင်းဖြစ် ရန်လိုအပ်ပြီး စာချုပ်(မူကြမ်း) ပါ စည်းကမ်းချက်များနှင့်ကိုက်ညီရန်လိုအပ် ပါသည်၊

(၃) စာချုပ်(မူကြမ်း)တွင် မြေငှားရမ်းခြင်းစာချုပ်များ၌ရယူလေ့ရှိသော မြေအသုံးချမှုပရီမီယမ်( Land Use Primium) ရယူထားခြင်းမရှိကြောင်းတွေ့ရပါသည်။ သို့ပါ၍ Land Use Primium ရယူရန်သင့် မသင့် စဉ်းစားသင့်ပါသည်၊

(ဃ) လိုအပ်သောနေရာများတွင် မင်နီဖြင့် ပြင်ဆင်ရေးသားပေးလိုက်ပါသည်။

၄။ တံဆိပ်ခေါင်းအက်ဥပဒေပုဒ်မ ၉ အရအစိုးရ တံဆိပ်ခေါင်းခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်မရရှိသေးလျှင် ကျသင့်သောတံဆိပ်ခေါင်းခွန်ကို အငှားချထားခြင်းခံရသူက ထမ်းဆောင်ရ မည်ဖြစ်ပါသည်။

ဤစာချုပ်(မူကြမ်း)ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်းအရသာ ဥပဒေ အကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့် မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ်များနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန် အကြံပြုပါသည်။

၆။ ရွှေပြည်အေးခရီးသွားလုပ်ငန်းလီမိတက်သည် ဥပဒေအရတရားဝင်ဖွဲ့စည်းထားသော ကုမ္ပဏီဟုတ် မဟုတ်၊ စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်နိုင်စွမ်းနှင့် လုပ်ကိုင်နိုင်ခွင့်ရှိ မရှိ၊ ငွေကြေးအင်အားပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင်လက်မှတ် ရေးထိုးမည့်သူသည် တရားဝင်လွှဲအပ်ခြင်းခံရသူဟုတ် မဟုတ် စသည့်အချက်များနှင့် စပ်လျဉ်း၍ ကြိုတင် စိစစ်ရန်လိုအပ်မည်ဖြစ်ပါသည်။

၇။ စာချုပ်(မူကြမ်း)ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန်အတွက် ဤရုံး သို့ မိတ္တူ(၃)စောင်ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၁၇/၃/၂၀၁၃

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)
( မေသီလင်း ၊ညွှန်ကြားရေးမှူး )

သစ်တောဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်ရုံး

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
သစ်တောဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်ရုံး
နေပြည်တော်

Email. Dg.fd@mptmail.net.mm

စာအမှတ်၊ ဥယျာဉ်-၄၄/ရွှေပြည်အေး/၁၃၀၉/၂၀၁၃
ရက်စွဲ ၂၀၁၃ ခုနှစ် ၊ ဧပြီလ ၃ ရက်

သို့

အုပ်ချုပ်မှုဒါရိုက်တာ
ရွှေပြည်အေးခရီးသွားလုပ်ငန်းလီမိတက်

အကြောင်းအရာ။ သစ်တောဦးစီးဌာနပိုင် မိုးယွန်းကြီးအင်းဘေးမဲ့တော အပန်းဖြေစခန်း ငှားရမ်းခြင်းစာချုပ်မူကြမ်းအပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံးမှ သုံးသပ်အကြံပြုချက်အား အကြောင်းကြားခြင်း

ရည် ညွှန်း ချက် ။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာန၊ ညွှန်ကြားရေးမှူးချုပ်ရုံး၏ ၁၂-၃-၂၀၁၃ ရက်စွဲပါစာအမှတ်၊ ဥယျာဉ်-ရုံး/ရွှေပြည်အေး/၁၂၀၅/၂၀၁၃

၁။ ရွှေပြည်အေးခရီးသွားလုပ်ငန်းလီမိတက်မှ တင်ပြသည့် မိုးယွန်းကြီးအင်းဘေးမဲ့တော အပန်းဖြေစခန်းငှားရမ်းခြင်းစာချုပ်(မူကြမ်း)အား သစ်တောဦးစီးဌာနမှ ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ သဘောထားမှတ်ချက်ထားရှိရေးအတွက်ရည်ညွှန်းစာဖြင့် တင်ပြခဲ့ပါသည်။

၂။ ပြည်ထောင်စုရှေ့နေချုပ်ရုံးမှ စာချုပ်(မူကြမ်း)အပေါ် ဥပဒေရှုထောင့်မှလေ့လာစိစစ်၍ အောက်ပါသုံးသပ်အကြံပြုချက်များ ပေးပို့လာပါသဖြင့်သိရှိနိုင်ပါရန်နှင့်လိုက်နာ ဆောင်ရွက်နိုင်ပါရန်ညွှန်ကြားပေးပို့အပ်ပါသည်-

(က) အကြံပြုချက်။ ။စာချုပ်(မူကြမ်း)အပိုဒ် ၁ ရည်ရွယ်ချက် အပိုဒ်ခွဲ ၁-၂ ပါငှားရမ်းမည့်မြေဧရိယာ(၃၆၀)ဧက(၁.၅၆၂၅စတုရန်းမိုင်)မှာမိုးယွန်းကြီးအင်းဘေးမဲ့တောတစ်ခုလုံး (သို့မဟုတ်)ယင်း၏ မည်သည့် အစိတ်အပိုင်း ဖြစ်သည်ကို တိကျစွာ ဖော်ပြရန်

ညှိနှိုင်းချက်။ ။အပိုဒ်ခွဲ ၁-၂ပါ "ငှားရမ်းမည့်မြေဧရိယာ(၃၆၀)ဧက (၁.၅၆၂၅စတုရန်းမိုင်)" စာသားအား "၂၅၆၀၀ဧက (၄၀စတုရန်းမိုင်) ကျယ်ဝန်းသည့် မိုးယွန်းကြီးအင်းဘေးမဲ့တော ဧရိယာ၏ ပဲခူးမြို့နယ်အပိုင်း ရှိမြေဧရိယာ(၃၆၀)ဧက(၁.၅၆၂၅စတုရန်းမိုင်)ကိုငှားရမ်းမည်ဖြစ်ပါသည်။" ဟု ပြင်ဆင်ပေးပါရန်

(ခ) အကြံပြုချက်။ ။စာချုပ်(မူကြမ်း) အပိုဒ်၁ ရည်ရွယ်ချက် အပိုဒ်ခွဲ ၁-၄ တွင် ရင်းနှီးမြှုပ်နှံမှု ပမာဏအား ကျပ်သိန်း၅၀၀ (ကျပ်သိန်းငါးရာ) အထက်ထည့်ဝင်၍ လုပ်ကိုင်ဆောင်ရွက်ရန်ဟုဖော်ပြထားပါသည်။ ရင်းနှီးမြှုပ်နှံမှု ပမာဏနှင့်စပ်လျဉ်း၍ နောင်အငြင်းပွားမှု မဖြစ်ပွားစေရေး အတွက် တိကျစွာဖော်ပြရန်

ညှိနှိုင်းချက်။ ။ ကျပ်သိန်း၅၀၀ (ကျပ်သိန်းငါးရာ)အထက် ထည့်ဝင်မည့်ရင်းနှီးမြှုပ်နှံမှု ပမာဏအားအသေးစိတ်စာရင်း(Break down) ပြုစုပေးပါရန်

(ဂ) အကြံပြုချက်။ ။စာချုပ်(မူကြမ်း)အပိုဒ် ၉ အငှားချထားခြင်းခံရသူ၏ တာဝန်ဝတ္တရားများ အပိုဒ်ခွဲ ၉-၁(၁)တွင် ဟိုတယ်နှင့် အပန်းဖြေစခန်း တည်ဆောက်ရာတွင် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနတို့၏ သတ်မှတ်ထားသည့် စံနှုန်းအတိုင်း တည်ဆောက်ရန် ဖော်ပြပါရှိပါသည်။စာချုပ်(မူကြမ်း)အပိုဒ် ၁၊ အပိုဒ်ခွဲ ၁-၃၊ နှစ်အလိုက် ဆောင်ရွက်ရမည့် လုပ်ငန်းများတွင် ဟိုတယ်တည်ဆောက်ခြင်းလုပ်ငန်း မပါရှိသဖြင့် ပြန်လည်စိစစ်ရန် ဖြစ်ပါသည်။ ထို့ပြင် "စံနှုန်းများ" လည်း ဖော်ပြထားခြင်း မရှိပါသဖြင့် နောင်အငြင်းပွားမှုမဖြစ်ပွားစေရန် စာချုပ်(မူကြမ်း)တွင် သတ်မှတ်ဖော်ပြရန်

ညှိနှိုင်းချက်။ ။စာချုပ်(မူကြမ်း)အပိုဒ်ခွဲ၉-၁(၁)တွင်ဖော်ပြထားသည့် "ဟိုတယ်နှင့် အပန်းဖြေစခန်းတည်ဆောက်ရာတွင်"စာသားမှာ စာချုပ်(မူကြမ်း)အပိုဒ်၁၊ အပိုဒ်ခွဲ၁-၃၊ နှစ်အလိုက်ဆောင်ရွက်ရမည့် လုပ်ငန်းများတွင်ပါရှိသည့် လှေပုံစံအိပ်ခန်းဆောင်(၅)ဆောင်အား ရည်ညွှန်းခြင်းဖြစ်ပါက စာချုပ်(မူကြမ်း) အပိုဒ်ခွဲ၉-၁(၁)အား အောက်ပါအတိုင်း ပြင်ဆင်ပေးပါရန်နှင့် စံနှုန်းများဖော်ပြပေးပါရန်

"နိုင်ငံတကာအဆင့်မီ ဟိုတယ်နှင့် အပန်းဖြေစခန်း ဆောက်လုပ်ခွင့်ရရှိခြင်းအတွက် အငှားချထားခြင်းခံရသူသည် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာနမှ သတ်မှတ်ပေးသောမြေနေရာတွင်စာချုပ်(မူကြမ်း)အပိုဒ် ၁၊ အပိုဒ်ခွဲ ၁-၃၊ နှစ်အလိုက်ဆောင်ရွက်ရမည့် လုပ်ငန်းများတွင်ပါရှိသည့်လှေပုံစံအိပ်ခန်းဆောင်(၅)ဆောင်အား ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာနနှင့် သစ်တောဦးစီးဌာနတို့၏ သတ်မှတ်ထားသည့်စံနှုန်းအတိုင်း တည်ဆောက်ပြီးမြန်မာ့ယဉ်ကျေးမှုရိုးရာဓလေ့များ မပျက်စီးစေပဲ အပန်းဖြေစခန်းကို တည်ဆောက်ရမည်။"

(ဃ) အကြံပြုချက်။ ။စာချုပ်(မူကြမ်း)အပိုဒ် ၂၂ ဘဏ်အာမခံငွေ၊ အပိုဒ်ခွဲ ၂၂-၁ တွင် ဖော်ပြထား သောဘဏ်အာမခံငွေနှင့် စပ်လျဉ်း၍ ဘဏ်အာမခံပုံစံကို စာချုပ်၌ ပူးတွဲတင်ပြရန်လိုအပ်ပါသည်။ ဘဏ်အာမခံပုံစံမှာ သက်ဆိုင်ရာဘဏ်က သတ်မှတ်ထားသော ပုံစံအတိုင်းဖြစ်ရန်လိုအပ်ပြီး စာချုပ်(မူကြမ်း)ပါ စည်းကမ်းချက်များနှင့် ကိုက်ညီရန်

ညှိနှိုင်းချက်။ ။ဘဏ်အာမခံပုံစံကိုစာချုပ်(မူကြမ်း)ပါ စည်းကမ်းချက်နှင့်အညီ ပြန်လည်ပြင်ဆင်ပေးပါရန်

၃။ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ ပြန်ကြားစာ အပိုဒ်၄ တွင် တံဆိပ်ခေါင်းအက် ဥပဒေ ပုဒ်မ ၉ အရ အစိုးရ တံဆိပ်ခေါင်းခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်မရရှိသေးလျှင် ကျသင့်သော တံဆိပ်ခေါင်းခွန်ကို ရွှေပြည်အေးခရီးသွားလုပ်ငန်းလီမိတက်မှ ထမ်းဆောင်ရမည် ဖြစ်ပါကြောင်း ဖော်ပြထားပါသဖြင့် ၎င်းအချက်အား သဘောတူညီပါက သဘောတူညီကြောင်း သီးသန့် ပြန်ကြားပေးရန်ဖြစ်ပါသည်။

၄။ ပြည်ထောင်စုရှေ့နေချုပ်ရုံးက စာချုပ်(မူကြမ်း)တွင် မလိုအပ်သော စာပိုဒ်များအား ပယ်ဖျက်ပေးထားပြီး၊ ပြင်ဆင်ရေးသားရန်လိုအပ်သည့်နေရာများတွင် မှင်နီပြထားသည့်အတိုင်း ပြန်လည်ပြင်ဆင်ရေးသား ပေးပို့ပါရန် စာချုပ်(မူကြမ်း)အား ပူးတွဲပေးပို့ အကြောင်းကြားအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)
[ဝင်းနိုင်သော်၊ညွှန်ကြားရေးမှူး(ဝန်းကျင်/သားငှက်ဌာန)]

မိတ္တူကို

ဒုတိယညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်ရုံးစာတွဲ၊ သစ်တောဦးစီးဌာန
ရုံးလက်ခံ
မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်
သစ်တောရေးရာဝန်ကြီးဌာန
သစ်တောဦးစီးဌာန

နှင့်

ရွှေပြည်အေးခရီးသွားလုပ်ငန်း ကုမ္ပဏီလီမိတက်

တို့အကြားချုပ်ဆိုသည့်

မိုးယွန်းကြီးအင်းဘေးမဲ့တော ဌားရမ်းခြင်းသဘောတူစာချုပ်

(မူကြမ်း)

ရက်စွဲ။ ။ ၂၀၁၄ ခုနှစ်၊ ................လ၊ ( )ရက်။

(မူကြမ်း)

# မိုးယွန်းကြီးအင်းဘေးမဲ့တောငှားရမ်းခြင်းသဘောတူစာချုပ်

ဤမိုးယွန်းကြီးအင်းဘေးမဲ့တော မြေငှားရမ်းခြင်းသဘောတူစာချုပ် (ဤမှနောင်တွင် သဘောတူစာချုပ်ဟုခေါ်ဆိုရမည်)ကို ၂၀၁၄ခုနှစ်၊ ............ လ၊ ...... ရက်နေ့တွင်၊ နေပြည်တော်၌ ပြုလုပ်ချုပ်ဆိုကြသည်မှာ...

ဒေါက်တာညီညီကျော် ၊ ညွှန်ကြားရေးမှူးချုပ်ကိုယ်စားပြုသော သစ်တောဦးစီးဌာန၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန (နောင်တွင် “အငှားချထားသူ”ဟု ခေါ်တွင်စေပြီး၊ ယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက ဥပဒေအရ လွှဲအပ်ခြင်းခံရသူများနှင့်၊ ဆက်ခံသူများပါဝင်သည်ဟု မှတ်ယူရမည်) ကတစ်ဖက်

နှင့်

ဒေါက်တာမျိုးသက်၊ မန်နေဂျင်းဒါရိုက်တာ ကိုယ်စားပြုသော ရွှေပြည်အေးခရီးသွားလုပ်ငန်းကုမ္ပဏီလီမိတက်၊ အမှတ်(၂၀၀)၊ အနောက်ရွှေဂုံတိုင် (၅)လမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ (နောင်တွင် ‘‘အငှားချထားခြင်းခံရသူ’’ဟုခေါ်တွင်စေပြီး၊ ယင်းစကားရပ်တွင် စာသားအရသော် လည်းကောင်း အဓိပ္ပါယ်အရ သော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက၊ ဥပဒေအရခွင့်ပြုလွှဲအပ် ခံရသူများ၊ ဆက်ခံခွင့်ရှိသူများနှင့် တရားဝင်ကိုယ်စားလှယ်များပါဝင် သည်ဟုမှတ်ယူရမည်)က အခြားတစ်ဖက်တို့သည် အောက်ပါ စည်းကမ်းချက်များနှင့်အညီ နှစ်ဖက်သဘောတူ စာချုပ်ချုပ်ဆိုကြပါသည်။

## အပိုဒ် - ၁ ရည်ရွယ်ချက်

၁-၁ ‘‘အငှားချထားခြင်းခံရသူ’’ သည် ‘‘အငှားချထားသူ’’ ပိုင်ဆိုင်သည့် မိုးယွန်းကြီးအင်း ဘေးမဲ့တောအတွင်းရှိ ပဲခူးတိုင်း၊ ပဲခူးမြို့နယ်အတွင်း နောက်ဆက်တွဲ(က)ဖြင့် ဖော်ပြထားသော အတည်ပြုပြီးမြေပုံပါ မြေကွက်နှင့် ယင်းမြေကွက်ပေါ်ရှိ အပန်းဖြေစခန်းများ အဆောက်အဦတို့ကို နှစ်ရှည်ငှားရမ်းပြီး အဆောက်အဦများမှာ နှစ်ကာလကြာမြင့်သဖြင့် ယိုယွင်းပျက်စီးနေပြီး အဆင့်အတန်းနိမ့်ကျလာမှုကြောင့် ပြန်လည်အဆင့်မြင့်တင်ခြင်း၊ ပြုပြင်ခြင်းစသည့် ဝန်ဆောင်မှုများ ပြုလုပ်၍ BOT စနစ်ဖြင့် အပန်းဖြေစခန်းလုပ်ငန်းဆောင်ရွက်ရန်အတွက် ရည်ရွယ်ပါသည်။

၁-၂ ငှားရမ်းမည့်ပစ္စည်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

- ၂၅၆၀၀ ဧက (၄၀ စတုရန်းမိုင်) ကျယ်ဝန်းသည့် မိုးယွန်းကြီးအင်းဘေးမဲ့တော ဧရိယာ၏ ပဲခူးမြို့နယ်အပိုင်းရှိ မြေဧရိယာ (၃၆၀)ဧက (၀. ၅၆၂၅ စတုရန်းမိုင်)ကို ငှားရမ်းမည်ဖြစ်ပါသည်။
- အဆောက်အဦးတွင် အောက်ပါတို့ ပါဝင်ပါမည်။

(က) လှေပုံစံအဆောက်အဦး (၂၀)လုံး
(ခ) မိသားစုတည်းခိုဆောင်/ ဘန်ဂလို (၂)ခန်း (၇)လုံး
(ဂ) ငှက်ကြည့်မျှော်စင် (၂) စင်

(ယ) စားသောက်ဆိုင် (၁)ဆောင်
(င) သစ်သားနင်းကြမ်းလျှောက်လမ်းများ (၂)ခု
(စ) မီလ္လာစုဆောင်းကန် (၂)လုံး
(ဆ) ၂လက်မ အဝီစိတွင်း (၂)တွင်း
(ဇ) ရေစင် (၁)ခု
(ဈ) အပန်းဖြေနားနေဆောင် (၄)ခု

၁-၃ “အငှားချထားခြင်းခံရသူ”သည် မိုးယွန်းကြီးအင်းဘေးမဲ့တောအပန်းဖြေစခန်းဖွံ့ဖြိုးတိုးတက်ရေးအတွက်အဆင့်မြင့်တင်ခြင်း ဝန်ဆောင်မှုလုပ်ငန်းများကို(၅)နှစ်စီမံကိန်းဖြင့် နှစ်အလိုက်အောက်ဖော်ပြပါလုပ်ငန်းများကို ဆောင်ရွက်မည်ဖြစ်ပါသည်။

(၁) <u>ပထမနှစ်</u>

- 11 KV Power Line + 315 KVA Transformer တည်ဆောက်ခြင်း။
- Internal Power Lnie နှင့် လျှပ်စစ်မီးကြိုး၊ လျှပ်စစ်မီးတပ်ဆင်သွယ်တန်းခြင်း။
- ပင်မ လှေလမ်းကြောင်း မြေသားတူးဖော်ဖောက်လုပ်ခြင်း။
- ကျွန်းများ ဘန်ဂလိုများ ဆက်သွယ်သည့် တံတားများ အသစ်ပြန်တည်ဆောက်ခြင်း။
- ခန်းမဆောင် (Function Hall) အသစ်တည်ဆောက်ခြင်း။
- Open Deck အား အမိုး၊ အကာများဖြည့်ဆည်း တည်ဆောက်ခြင်း။
- တည်းခိုမည့် ဘန်ဂလိုများ၊ အခန်း၊ အသုံးဆောင်များ အဆင့်မြင့်တင်လဲလှယ်ခြင်း။
- အပန်းဖြေလည်ပတ် ခရီးစဉ် (Package Tour) ပြေးဆွဲရန် မော်တော်ယာဉ် (၂)စီးဝယ်ယူခြင်း။
- ငှက်ကြည့်စင် (၁)လုံး အသစ်တည်ဆောက်ခြင်း။

(၂) <u>ဒုတိယနှစ်</u>

- လှေပုံစံ (Boat House Bungalow) နားနေဆောင် (၅)လုံးကို အသစ်တိုးချဲ့တည်ဆောက်ရန်။ (ပူးတွဲပါ ပုံစံအရ)
- ကျွန်း(၅)ကျွန်းပေါ်တွင် Landscaping + Total Wear & Tear Renovation သန့်ရှင်းမှုနှင့် သပ်ရပ်လှပ အနားယူ အပန်းဖြေနိုင်ရန် ပြုပြင်ထိန်းသိမ်းခြင်း။
- မြင်းအပျော်စီးခြင်း Horse Back Riding၊ လှေလှော်ခြင်း (Canoe Ride) နှင့် အခြားအပန်းဖြေစရာများ စီစဉ်ထားခြင်း။

(၃) <u>တတိယနှစ်</u>

- ဒုတိယမြောက် လှေပုံစံ နားနေဆောင် (၅)လုံး ဆက်လက်တိုးချဲ့တည်ဆောက်ရန် (ပူးတွဲပါ ပုံစံအရ)
- ငှက်ကြည့်စင် (၁)လုံး အသစ်တည်ဆောက်ခြင်း။

(၄) <u>စတုတ္ထနှစ်</u>

- မူလ Duplex Bungalow များ ရှိပြီးသည့် ကျွန်းပေါ်တွင် ထပ်မံ၍ Duplex Bungalow (၅)လုံး အသစ်တည်ဆောက်ရန်။ (ပူးတွဲပါ ပုံစံအရ)

(၅) ပဥ္စမနှစ်

- အထွေထွေ ပြင်ဆင်ခြင်း။

၁-၄ **"အငှားချထားခြင်းခံရသူ"**သည် အဆိုပြုလုပ်ငန်းအား ရင်းနှီးမြှုပ်နှံမှုပမာဏ ကျပ်သန်း ၉၃၆ (ကျပ်သန်းကိုးရာသုံးဆယ်ခြောက်တိတိ)ထည့်ဝင်၍ လုပ်ကိုင်ဆောင်ရွက်မည်ဖြစ်ပါသည်။

**အပိုဒ် - ၂ ကိုယ်စားပြုခြင်းနှင့်အာမခံခြင်း**

၂-၁ ဤသဘောတူစာချုပ်တွင် လက်မှတ်ရေးထိုးချုပ်ဆိုကြသည့် စာချုပ်ဝင်များအနက် အငှားချထားသူသည် နောက်ဆက်တွဲ(က)ပါ ငှားရမ်းမည့်မြေနှင့် ယင်းမြေကွက်ပေါ်ရှိ အဆောက်အဦအားလုံးကို့ကို တရားဝင်ပိုင်ဆိုင်ခွင့်ရှိကြောင်းနှင့် လုပ်ငန်းဆောင်ရွက်ခွင့်ပြုမှုတို့ကို တရားဝင်ဆောင် ရွက်ခွင့်ရှိကြောင်းနှင့် အငှားချထားခြင်းခံရသူသည် တည်ဆဲဥပဒေများအရ ဤသဘောတူစာချုပ်ပါ လုပ်ငန်းများကို လုပ်ကိုင်ခွင့်ရှိသော ပုဂ္ဂိုလ်ဖြစ်ပြီး၊ ဤသဘောတူစာချုပ်ကို ချုပ်ဆိုနိုင်ရန် ဥပဒေအရ လုပ်ပိုင် ခွင့်ရှိသူအခွင့်အာဏာနှင့် စီးပွားရေးအရ ငွေရေးကြေးရေးခိုင်မာ တောင့်တင်းသူဖြစ်ကြောင်း အာမခံပါသည်။

**အပိုဒ် - ၃ ကြိုတင်စည်းကမ်းသတ်မှတ်ချက်များ**

၃-၁ ဤသဘောတူစာချုပ်ပါ စည်းကမ်းသတ်မှတ်ချက်များအတိုင်း လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်ရာတွင် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အတွင်း သက်ဆိုင်ရာအစိုးရဌာန အာဏာပိုင်အဖွဲ့အစည်းများထံမှ ရယူရန်လိုအပ်သော အတည်ပြုချက်များ၊ ခွင့်ပြုမိန့်များ ရရှိပြီးမှသာ လုပ်ငန်းများအကောင်အထည်ဖော်ဆောင်ရွက်ရန် သတ်မှတ်ထားပါသည်။

**အပိုဒ် - ၄ ဥပဒေအရဆောင်ရွက်ခြင်း**

၄-၁ ဤသဘောတူစာချုပ် ပြုလုပ်ချုပ်ဆိုသူများသည် စာချုပ်ပါ တာဝန်ဝတ္တရားများ၊ လုပ်ငန်းအကောင်အထည်ဖော်မှုများ၊ လုပ်ငန်းဆောင်ရွက်မှုများကို လိုက်နာဆောင်ရွက်ရမည်။

**အပိုဒ် - ၅ ငှားရမ်းခြင်းသက်တမ်းကာလ**

၅-၁ ဤသဘောတူစာချုပ်ပါ ငှားရမ်းခြင်းသက်တမ်းကာလမှာ ဤသဘောတူစာချုပ်စတင်အကျိုးသက်ရောက်သည့်နေ့မှ ကနဦး (၃၀)နှစ်ဖြစ်ပါသည်။

၅-၂ ငှားရမ်းခြင်းသက်တမ်းကနဦး (၃၀)နှစ် ကုန်ဆုံးသည့်အခါ နှစ်ဦးနှစ်ဖက် ညှိနှိုင်း၍ နောက်ထပ်(၅)နှစ် (၂)ကြိမ် သက်တမ်းတိုးခွင့်ရှိသည်။

၅-၃ ဤသဘောတူစာချုပ်ပါ ငှားရမ်းခြင်း၊ သက်တမ်းတိုးမြှင့်ခြင်းသည် ပြည်ထောင်စုအစိုးရအဖွဲ့သို့ တင်ပြအတည်ပြုချက်ရရှိမှသာ အကျိုးသက်ရောက်မှု ရှိစေရမည်။

၅-၄ အငှားချထားသူသည် အငှားချထားသည့်မြေနှင့် အဆောက်အဦးများကို ဤသဘောတူစာချုပ် အားတရားဝင်အတည်ပြုလက်မှတ်ရေးထိုးသည့်နေ့မှစ၍ အငှားချထားခြင်းခံရသူသို့ လွှဲပြောင်း ပေးအပ်ရမည်။

## အပိုဒ် - ၆ အကျိုးသက်ရောက်သည့်နေ့

၆-၁ ဤသဘောတူစာချုပ်သည် သက်ဆိုင်ရာအဏာပိုင်အဖွဲ့အစည်းများ၏ခွင့်ပြုမိန့်ရရှိပြီးနောက် စာချုပ်ဝင်ပုဂ္ဂိုလ်များ နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးချုပ်ဆိုသည့်နေ့မှစတင်၍ အကျိုး သက်ရောက်မှုရှိစေရမည်။

## အပိုဒ် - ၇ ငှားရမ်းခပေးချေခြင်း။

၇-၁ "အငှားချထားခြင်းခံရသူ"သည် အငှားချသည့်မြေဧရိယာ (၃၆၀)ဧက (၀. ၅၆၂၅စတုရန်းမိုင်) နှင့် အဆောက်အဦးများငှားရမ်းခြင်းအတွက် တစ်နှစ်လျှင် ငှားရမ်းခငွေကျပ် ၁,၅၀၀,၀၀၀ (ကျပ်တစ်ဆယ့်ငါးသိန်းတိတိ)ကို အငှားချထားသူထံသို့ ဤစာချုပ်ကို နှစ်ဦးနှစ်ဖက် လက်မှတ် ရေး ထိုးပြီး ရက်ပေါင်း (၆၀)အတွင်း ကြိုတင်ပေးသွင်းရမည် နောက်နှစ်များတွင်လည်း နှစ်စဉ် သက်တမ်းမစတင်မီရက်ပေါင်း (၆၀)အတွင်း ကြိုတင်၍ ပေးသွင်းသွားရမည်။ အကယ်၍ သတ်မှတ်သည့် ကာလထက် နောက်ကျပြီး ပေးသွင်းပါက တစ်ရက်လျှင် ဒါဏ်ကြေးငွေ ကျပ် (၅၀၀၀) နှုန်းပေးဆောင်ရပါမည်။

၇-၂ ငှားရမ်းခနှုန်းထားများကို စာချုပ်ပြန်လည်ချုပ်ဆိုသည့်အခါ ကာလဒေသပေါက်ဈေးနှင့် နှစ်ဖက်ညှိနှိုင်း၍ လက်ရှိစာချုပ်ပါ ငှားရမ်းခ၏ (၁၀)ရာခိုင်နှုန်းထက်မပိုသော နှုန်းထားဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရယူ၍ ပြည်ထောင်စုသမ္မတမြန်မာ နိုင်ငံတော် အစိုးရအဖွဲ့သို့တင်ပြရန်။

## အပိုဒ် - ၈ အငှားချထားသူ၏ တာဝန်ဝတ္တရားများ

၈-၁ အငှားချထားသူသည် အောက်ပါတာဝန်ဝတ္တရားများအတိုင်း လိုက်နာဆောင်ရွက်ရမည်။

(၁) အငှားချထားသည့်မြေအတွက် မြေခွန်ကို ပေးဆောင်ရမည်။

(၂) အငှားချထားခြင်းခံရသူ၏ ဤသဘောတူစာချုပ်ပါ လုပ်ငန်းများကို အကောင်အထည် ဖော်ဆောင်ရွက်နိုင်ရန်နှင့် လုပ်ငန်းအတွက်လိုအပ်သော ပစ္စည်းများဝယ်ယူတင်သွင်း နိုင်ရန် ကူညီဆောင်ရွက်ပေးရမည်။

(၃) လိုအပ်သောခွင့်ပြုချက်များ၊ မှတ်ပုံတင်မှုများ၊ လိုင်စင်များကို သက်ဆိုင်ရာအဖွဲ့အစည်း များထံမှရယူရာတွင် ကူညီဆောင်ရွက်ပေးရမည်။

(၄) အငှားချထားခြင်းခံရသူက ဤမြေနှင့် အဆောက်အအုံငှားရမ်းလုပ်ကိုင်ခြင်း အတွက် နိုင်ငံတော် အဖွဲ့အစည်းများသို့ ပေးချေရမည့် အခွန်အခများအားလုံးကို မြန်မာကျပ် ငွေဖြင့် ပေးချေနိုင်ရန်အတွက် အငှားချထားသူက ကူညီဆောင်ရွက်ပေးရမည်။ အငှား ချထားခြင်းခံရသူက တည်ဆဲဥပဒေအရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ၊ ခံစားခွင့်ရရှိပါက ထိုသို့လျှောက်ထားရာတွင် ကူညီဆောင်ရွက်ပေးရမည်။

(၅) အငှားချထားသည့်မြေတွင် အဆောက်အအုံများကို ပိုမိုတိုးတက်ကောင်းမွန်စေရေး အတွက် လိုအပ်သောတည်ဆောက်မွမ်းမံပြင်ဆင်မှုများပြုလုပ်နိုင်ရန် အငှားချထားခြင်း ခံရသူသို့ ခွင့်ပြုပေးရမည်။

## အပိုဒ် - ၉ အငှားချထားခြင်းခံရသူ၏တာဝန်ဝတ္တရားများ

၉-၁ "အငှားချထားခြင်းခံရသူ"သည် အောက်ပါတာဝန်ဝတ္တရားများအတိုင်း လိုက်နာဆောင်ရွက် ရမည်။

(၁) နိုင်ငံတကာအဆင့်မီ ဟိုတယ်နှင့် အပန်းဖြေစခန်း ဆောက်လုပ်ခွင့်ရရှိခြင်းအတွက် အငှားချထားခြင်းခံရသူသည် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီး ဌာနမှ သတ်မှတ်ပေးသော မြေနေရာတွင်စာချုပ်(မူကြမ်း)အပိုဒ်-၁၊ အပိုဒ်ခွဲ ၁-၃၊ နှစ်အလိုက်ဆောင်ရွက်ရမည့်လုပ်ငန်းများတွင် ပါရှိသည့်လှေပုံစံ အိပ်ခန်းဆောင် (၅) ဆောင်အား ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနနှင့် သစ်တောဦးစီးဌာနတို့၏ သဘောတူညီချက်နှင့်အညီ နောက်ဆက်တွဲ(ခ)ပါသတ်မှတ် ထားသည့် စံနှုန်းအတိုင်းတည်ဆောက်ပြီး၊ မြန်မာ့ယဉ်ကျေးမှု ရိုးရာဓလေ့များ မပျက် စီးစေပဲအပန်းဖြေစခန်းကို တည်ဆောက်ရမည်။

(၂) အငှားချထားခြင်းခံရသူသည် နှစ်စဉ်ငှားရမ်းခငွေများကို ဤသဘောတူစာချုပ်ပါ စည်း ကမ်းချက်များနှင့်အညီ သတ်မှတ်ထားသည့်ကာလအတွင်း အငှားချထားသူသို့ မပျက် မကွက်ပေးချေရမည်။

(၃) အငှားချထားစဉ်ကာလအတွင်း အငှားချထားသည့်မြေပေါ်တွင် စီးပွားရေးလုပ်ငန်းများ ဆောင်ရွက်ရာ၌ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၏ တည်ဆဲဥပဒေများအရလိုအပ် သောခွင့်ပြုမိန့်များ၊ လိုင်စင်များရယူပြီး လုပ်ကိုင်ဆောင်ရွက်ရမည်။

(၄) အငှားချထားသည့်မြေနှင့် အဆောက်အဦပေါ်တွင် အဓိကပြုပြင်ပြောင်းလဲမှုများပြုလုပ် ခြင်းအတွက် အငှားချထားသူထံမှ စာဖြင့်ကြိုတင်သဘောတူညီ ခွင့်ပြုချက်ရယူပြီးမှ သာလျှင် ဆောင်ရွက်ရမည်။ အငှားချထားစဉ်ကာလအတွင်း အငှားချထားသည့် မြေ ပေါ်တွင် ဟိုတယ်အဆောက်အအုံများကို တည်ဆောက်ခြင်း၊ ပြုပြင်မွမ်းမံပြင်ဆင်ခြင်း၊ တိုးချဲ့တည်ဆောက်ခြင်း၊ လမ်းဖောက်လုပ်ခြင်း၊ လျှပ်စစ်မီးနှင့် ရေရရှိရေးလုပ်ငန်းများ ဆောင်ရွက်ခြင်း စသည်တို့ကို မိမိ၏ကုန်ကျစရိတ်ဖြင့် တာဝန်ယူဆောင်ရွက်ပေးရ မည်။

(၅) အငှားချထားသည့်မြေပေါ်တွင် အဆိုပြုလုပ်ငန်းအား ဆက်လက်လုပ်ကိုင်ရန် တစ်ဆင့် ငှားရမ်းခြင်း၊ ထပ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်း၊ ပေါင်နှံခြင်းစသည်တို့ကို လုံးဝ မပြုလုပ်ရ။

(၆) ဤသဘောတူစာချုပ်အား တည်ဆဲဥပဒေအရ တံဆိပ်ခေါင်းခွန်၊ ကင်းလွတ်ခွင့် (သို့ မဟုတ်) သက်သာခွင့်မရရှိသေးလျှင် ထိုက်သင့်သောတံဆိပ်ခေါင်းခွန်များ ထမ်းဆောင် ရမည်။

(၇) အငှားချထားစဉ်ကာလအတွင်း မြေခွန်မှအပ လုပ်ငန်းနှင့်သက်ဆိုင်သော အခြားအခွန်အခများကို အချိန်မှန်မှန်ပေးဆောင်ရမည်။

(၈) ဟိုတယ်နှင့် တည်းခိုခန်းလုပ်ငန်းများ ဆောင်ရွက်ခွင့်ရရှိရန်အတွက် ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၏ ခွင့်ပြုမိန့်လိုင်စင်ရယူရမည်။

(၉) အငှားချထားခြင်းခံရသူသည် နိုင်ငံတော်နှင့် သက်ဆိုင်ရာဝန်ကြီးဌာနမှ သတ်မှတ်ထားသည့်စည်းကမ်းချက်ကို လိုက်နာရမည့်အပြင် လောင်းကစားခြင်း၊ မြန်မာ့ယဉ်ကျေးမှုနှင့် ဆီလျော်မှုမရှိသည့် စင်တင်တေးဂီတပြုလုပ်ခြင်း၊ သရုပ်ပျက်ခြင်း စသည့်တားမြစ်ချက်များကို လိုက်နာရမည်။

အပိုဒ် - ၁၀ **အာမခံထားရှိခြင်း**

၁၀-၁ **"အငှားချထားခြင်းခံရသူ"**သည် ဤသဘောတူစာချုပ်ပါ လုပ်ငန်းများဆောင်ရွက်ရာတွင် လိုအပ်သောအာမခံများကို သစ်တောဦးစီးဌာနအမည်ဖြင့် မြန်မာ့အာမခံဥပဒေနှင့်အညီ ထားရှိရမည်။

၁၀-၂ "အငှားချထားခြင်းခံရသူ"သည် အထက်အပိုဒ် (၁-၂)ပါ ငှားရမ်းမြေ (၃၆၀)ကေအတွက် စာချုပ်ချုပ်ပြီး၊ ရက်ပေါင်း(၆၀)အတွင်း မြေအသုံးချမှုပရီမီယံကို မြန်မာ့အာမခံဥပဒေပါ ပြဋ္ဌာန်းချက်နှင့်အညီထားရှိရမည်။

အပိုဒ် - ၁၁ **လုပ်ငန်းများလွှဲပြောင်းပေးအပ်ခြင်း**

၁၁-၁ အငှားချထားခြင်းခံရသူသည် ဤငှားရမ်းခြင်းသဘောတူစာချုပ်အရ ဟိုတယ်နှင့်အပန်းဖြေစခန်းဆောင်ရွက်မည်ဖြစ်ရာ ဤသဘောတူစာချုပ်ပါ ငှားရမ်းခြင်းကာလကုန်ဆုံးသည့်အခါဖြစ်စေ၊ ငှားရမ်းခြင်း ရပ်စဲသည့်အခါဖြစ်စေ၊ ယင်းသို့ ကုန်ဆုံးရပ်စဲသည့်နေ့မှ ရက်ပေါင်း (၃၀)အတွင်း အငှားချထားသည့်မြေနှင့် ယင်းမြေပေါ်ရှိ အဆောက်အအုံအပါအဝင် ယင်းနှင့် ဆက်စပ်နေသော ပစ္စည်းများအားလုံး (ယင်းပစ္စည်းများတွင် တပ်ဆင်ပစ္စည်းများ၊ ကိရိယာများပါဝင်ခြင်း မရှိစေရ)ကို အငှားချထားသူသို့ ကောင်းမွန်စွာပုံမှန်အသုံးပြုနိုင်သည့် အခြေအနေအတိုင်း အဖိုးစားနားမပါရှိဘဲ ပြန်လည်လွှဲပြောင်းပေးအပ်ရမည်။

အပိုဒ် - ၁၂ **စီမံခန့်ခွဲမှုအဖွဲ့ (Board of Management)ဖွဲ့စည်းခြင်း**

၁၂-၁ မိုးယွန်းကြီးအင်းဘေးမဲ့တော အပန်းဖြေစခန်းနှင့် ဟိုတယ်လုပ်ငန်းများ ဆောင်ရွက်ရာတွင် စီမံခန့်ခွဲမှုအဖွဲ့ **(Board of Management)**ကို ဖွဲ့စည်းရမည်။

၁၂-၂ စီမံခန့်ခွဲမှုအဖွဲ့တွင် "အငှားချထားသူ၏" ကိုယ်စားလှယ်တစ်ဦး၊ "အငှားချထားခြင်းခံရသူ" ဘက်မှ ကိုယ်စားလှယ် (၃)ဦးပါဝင်ရမည်။

၁၂-၃ အငှားချထားခြင်းခံရသူသည် တည်ဆဲဥပဒေများပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို စီမံခန့်ခွဲမှုအဖွဲ့၏ သဘောတူညီချက်ဖြင့် ပြည်ထောင်စုအစိုးရအဖွဲ့၏ အတည်ပြုချက်အရ ခံစားခွင့်ရှိစေရမည်။

၁၂-၄ အငှားချထားခြင်းခံရသူသည် လုပ်ငန်းဆိုင်ရာ အခြားအခွန်အခများကို တည်ဆဲဥပဒေများပါ ပြဋ္ဌာန်းချက်နှင့်အညီ သတ်မှတ်ထားသည့်အတိုင်း နည်းလမ်းတကျပေးဆောင်ရမည်။

၁၂-၅ စစ်ဆေးရေးအဖွဲ့ **(Inspection Team)** တစ်ရပ်ကိုဖွဲ့စည်း၍ အခါအားလျော်စွာ လုပ်ငန်းဆောင်ရွက်မှုနှင့် တည်ဆောက်မှုလုပ်ငန်းများ စစ်ဆေးရမည်။

## အပိုဒ် - ၁၃ ဓါတ်သတ္တုအရင်းအမြစ်များ။

၁၃-၁ ဤသဘောတူစာချုပ်ပါ ငှားရမ်းကာလအတွင်း မမျှော်လင့်ဘဲ ငှားရမ်းသည့် မြေနှင့်အဆောက်အအုံတည်ရှိရာ မြေပေါ်မှ ဓါတ်သတ္တုအရင်းအမြစ်များ၊ ကျောက်မျက်ရတနာများ၊ ရှေးဟောင်းယဉ်ကျေးမှုပစ္စည်းများ၊ သဘာဝသမိုင်းနှင့် သိပ္ပံဆိုင်ရာ အရေးပါသောအရာဝတ္ထုများ၊ သဘာဝသယံဇာတများကို မမျှော်လင့်ဘဲတွေ့ရှိလျှင် "အငှားချထားခြင်းခံရသူ"သည် "အငှားချထားသူ" သို့ ချက်ခြင်းတင်ပြရမည်။ ထိုပစ္စည်းများကို ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အစိုးရက ပိုင်ဆိုင်စေရမည်ဖြစ်ပြီး အငှားချထားခြင်းခံရသူသည် သက်ဆိုင်ရာ ပြည် ထောင်စုသမ္မတ မြန်မာနိုင်ငံတော် အစိုးရအဖွဲ့အစည်းများသို့ လွှဲပြောင်းတင်ပြရမည်။ ထို့အပြင် အထက်ပါ ပစ္စည်းများအား နိုင်ငံတော်အစိုးရက လွတ်လပ်စွာ တူးဖော်ရယူပိုင်ခွင့်ရှိစေရမည်။

## အပိုဒ် - ၁၄ စာချုပ်ရပ်စဲခြင်း

၁၄-၁ ဤသဘောတူစာချုပ်ကို ပြုလုပ်ချုပ်ဆိုကြသူများသည် အောက်ဖော်ပြပါအကြောင်းချင်းရာ တစ်ရပ်ရပ်ဖြစ်ပေါ်လာလျှင် စာချုပ်ရပ်စဲခွင့်ရှိစေရမည်။

(၁) လုပ်ငန်းတွင်ကြီးမားစွာ ဆက်တိုက်အရှုံးပေါ်ပေါက်နေခြင်း။
(၂) ပဋိညာဉ်စာချုပ်ဝင်တစ်ဖက်ဖက်မှ စာချုပ်ပါတာဝန်များဆောင်ရွက်ရန် ပျက်ကွက်ခြင်း။
(၃) ကြိုတင်မမျှော်မှန်းနိုင်သည့်အပြင် တားဆီးခြင်းမပြုနိုင်သည့် မလွန်ဆန်နိုင်သောဖြစ်ရပ်များပေါ်ပေါက်ပြီး အဆိုပါဖြစ်ရပ်များသည် (၆)လတာ ကာလအထိကြာမြင့်ခြင်း။
(၄) လုပ်ငန်း၏မူလရည်မှန်းချက်များကို ဆက်လက်အကောင်အထည်ဖော်နိုင်စွမ်းမရှိခြင်း။
(၅) စာချုပ်သက်တမ်းကုန်ဆုံးခြင်း၊

၁၄-၂ အငှားချထားသည့်မြေနှင့် အဆောက်အဦးများကို နိုင်ငံတော်မှလိုအပ်လျှင် အချိန်မရွေး အငှားချထားသူသို့ အငှားချထားခြင်းခံရသူက လွှဲပြောင်းပေးရမည်။ ထိုသို့ လွှဲပြောင်းပေးရာတွင် ငှားရမ်းခြင်းကာလ ကနဦး(၃၀)နှစ်ကြာမှ ပြန်လည်လွှဲပြောင်းရပါက အဖိုးစားနားမပါဘဲလွှဲပြောင်းပေးရမည်ဖြစ်ပြီး၊ ကနဦး(၃၀)နှစ်အတွင်းဖြစ်ပါက နှစ်ဦးနှစ်ဖက်ညှိနှိုင်းပြီး တန်ဖိုးသတ်မှတ်၍ လွှဲပြောင်းပေးရမည်။

၁၄-၃ ဤသဘောတူစာချုပ်ပါ စာချုပ်ကို ရပ်စဲလိုကြောင်းနှစ်ဦးနှစ်ဖက်သဘောဆန္ဒဖြင့် တင်ပြလာလျှင် စာချုပ်ရပ်စဲခွင့်သည် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ ခွင့်ပြုချက်ရရှိပြီးမှသာ အတည်ဖြစ်စေရမည်။

## အပိုဒ်-၁၅ မြေသို့ပြန်လည်ဝင်ရောက်နိုင်ခွင့်

၁၅-၁ အငှားချထားခြင်းခံရသူက စာချုပ်ပါစည်းကမ်းချက်များကို ဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန်ပျက်ကွက်လျှင် သော်လည်းကောင်း၊ ထိုသို့ပျက်ကွက်ကြောင်း အငှားချထားသူက ချအပ်သော နို့တစ်စာပါကာလများအတွင်း မဆောင်ရွက်မှု (သို့မဟုတ်)မလိုက်နာမှုကို ပြင်ဆင်ပေးရန်ပျက်ကွက်လျှင်သော်လည်းကောင်း၊ အငှားချထားသူသည် အငှားစာချုပ်နှင့် သက်ဆိုင်အကျုံးဝင်သော ပစ္စည်းတစ်ရပ်လုံးပေါ်တွင် ငြိမ်းချမ်းအေးဆေးစွာ ပြန်လည်ဝင်ရောက်၍ လက်ရှိထားပိုင်ခွင့်ရှိရမည်။ ထိုအခါအငှားစာချုပ်သည် ရပ်စဲ၍ ဆုံးခန်းတိုင်ရောက်မည်ဟူ၍ နှစ်ဦးနှစ်ဖက်သဘောတူညီကြပါသည်။ ဤသို့စာချုပ်ရပ်စဲခြင်း၊ မြေသို့ပြန်လည် ဝင်ရောက်နိုင်သည့်အခွင့်အရေးများသည် ဤစာချုပ်ပါအငှားချထားသူက အငှားချထားခြင်းခံရသူထံမှရရှိမည့် အ ခွင့်အရေးများနှင့် တောင်းဆိုပိုင်ခွင့်များကို မထိခိုက်စေရ။

## အပိုဒ်-၁၆ မလွန်ဆန်နိုင်သောဖြစ်ရပ်များ

၁၆-၁ မလွန်ဆန်နိုင်သောဖြစ်ရပ်များဆိုသည်မှာ သဘာဝအလျောက် ကြုံတွေ့ရသည့် ရေဘေး၊ လေဘေး၊ မြေငလျင်ဘေးစသည်များအပြင်နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ်ချက်များ၊ တရားဥပဒေစိုးမိုးရေးနှင့် ငြိမ်ဝပ်ပိပြားမှု ပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်းစသည်တို့နှင့် စာချုပ်ဝင်တစ်ယောက်ယောက်က လိုအပ်သော သတိဝိရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန် မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များဖြစ်ပြီး ယင်းမလွန်ဆန်နိုင်သောဖြစ်ရပ်များကြောင့် ငှားရမ်းသုံးစွဲမှုကို ထိခိုက်ဆုံးရှုံးစေလျှင် အငှားချထားခြင်းခံရသူသည် အငှားချထားသူသို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခွင့်မရှိစေရ။ ထိုသို့ မလွန်ဆန်နိုင်သောဖြစ်ရပ် ပေါ်ပေါက်ပါက ယင်းဖြစ်ရပ်ဖြစ်ပေါ်သည့် အချိန်မှ (၁၄) ရက်အတွင်း အငှားချထားခြင်းခံရသူသည် အငှားချထားသူသို့ ချက်ခြင်းစာဖြင့်ရေးသား အကြောင်းကြားရမည်၊ အငှားချထားသူက လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သော ဖြစ်ရပ်မြောက်ပြီး အသုံးပြုခွင့်နှင့် တိုက်ရိုက်သက်ဆိုင်သော ဖြတ်တောက်ကာလ အပိုင်းအခြားအတွက် ငှားရမ်းခကို သက်သာခွင့်ပြုနိုင်သည်။

(၁) စာချုပ်ဝင်နှစ်ဖက်အနက် တစ်ဖက်ဖက်မှ စာချုပ်ပါတာဝန်ဝတ္တရားများကို ဆောင်ရွက်ရန် (သို့တည်းမဟုတ်) ဤစာချုပ်အရ အခြားတစ်ဖက်ဖက်၏ဆောင်ရွက်မှုကို လက်ခံရန် ယာယီအားဖြင့် မစွမ်းဆောင်နိုင်သည့်အခြေအနေကိုဖြစ်ပေါ်သက်ရောက်စေသော လူတို့မတွန်းလှန်နိုင်သည့် မလွန်ဆန်နိုင်သော ဘေးအန္တရာယ်များကျရောက်ခဲ့လျှင် အဆိုပါဘေးအန္တရာယ်ကို ရင်ဆိုင်ရသည့် စာချုပ်ဂင်တစ်ဖက်ပုဂ္ဂိုလ်သည် ဘေးအန္တရာယ်ကျရောက်သည့်နေ့မှ (၁၄)ရက်အတွင်း အဆိုပါဘေးအန္တရာယ်နှင့် ပတ်သက်မယာဖအသေးစိပ်အချက်အလက်များကို အခြားတစ်ဖက်သို့ စာဖြင့်အသိပေးအကြောင်းကြားရမည်။ အခြားတစ်ဖက်၏ လက်ခံအတည်ပြုချက်ဖြင့် လုပ်ငန်းများရပ်ဆိုင်းထားခွင့်ရှိစေရမည်။ မစွမ်းဆောင်နိုင်မှု ဆက်လက်ပေါ်ပေါက်နေစဉ်ကာလ အတွင်းရပ်နားထားရသည့် အဆိုပါစာချုပ်ဝင်တဖက်ပုဂ္ဂိုလ်၏ တာဝန်များအား ကာလရှည်ကြာသောအခြေအနေမှတစ်ပါး မစွမ်းဆောင်နိုင်သည့်အခြေအနေများကို အတတ်နိုင်ဆုံး၊ အမြန်ဆုံးဖယ်ရှားပစ်ရမည်။ မလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့် ဘေးအန္တရာယ် ပေါ်ပေါက်လာသည့် နှောင့်နှေးကြန့်ကြာမှုများအတွက် စာချုပ်ဝင်နှစ်ဦးနှစ်ဖက်လုံးတွင် တာဝန်မရှိစေရ။ ထို့အပြင် ယင်းကာလကို စာချုပ်ပါလုပ်ငန်းသက်တမ်းကာလတွင် ထည့်သွင်းရေတွက်ခြင်းမပြုရ။

(၂) ကြိုတင်မမျှော်မှန်းနိုင်သည့်အပြင် တားဆီးခြင်းမပြုနိုင်သည့် မလွန်ဆန်နိုင်သောဖြစ်ရပ်များဆိုသည်မှာ သဘာဝဘေးအန္တရာယ်ကြောင့် ဖြစ်ပေါ်လာသောကိစ္စရပ်များ၊ အစိုးရ၏တားမြစ်ချက်များ၊ သပိတ်မှောက်မှုများ၊ စက်မှုလုပ်ငန်းချို့ယွင်းချက်များ၊ စစ်ဖြစ်ပွားခြင်း၊ စီးပွားရေးပိတ်ဆို့ခြင်း၊ အဓိကရုဏ်းများ၊ သူပုန်ထခြင်း၊ ကပ်ရောဂါများဖြစ်ပွားခြင်း၊ ဗုံးပေါက်ကွဲခြင်း၊ မီးလောင်ခြင်း၊ ရေလွှမ်းမိုးခြင်း၊ ရေကြီးခြင်း၊ မြေငလျင်လှုပ်ခြင်း၊ မုန်တိုင်းများကျရောက်ခြင်း၊ မိုးကြိုးပစ်ခြင်းစသည်တို့အပြင် စာချုပ်ဝင်တစ်ဦးဦး၏ပေါ့ဆမှု၊ ပျက်ကွက်မှုကြောင့် ဖြစ်ပေါ်လာခြင်းမဟုတ်ဘဲ၊ မည်သူမျှတားဆီးထိန်းချုပ်၍မရသော သဘာဝဘေးအန္တရာယ်ပေါ်ပေါက်လာသည့် ဖြစ်ရပ်များဖြစ်ရမည်။

(၃) လုပ်ငန်း ဆောင်ရွက်နေစဉ်အတွင်း အဆိုပါ မလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့် လုပ်ငန်းရပ်စဲလိုလျှင် အခြားတစ်ဖက်သို့ စာဖြင့်အကြောင်းကြားရမည်။

(၄) အဆိုပါ မလွန်ဆန်နိုင်သောဖြစ်ရပ်များကြောင့် သဘောတူစာချုပ်ကို ပြင်ဆင်ရန်ဆုံးဖြတ်ခွင့်ရှိစေရမည်။ ထိုသို့ပြုလုပ်ရာတွင် စာချုပ်ဝင်ပုဂ္ဂိုလ်များ၏ တာဝန်ဝတ္တရားများသည် သဘောတူစာချုပ်ပါ စည်းကမ်းချက်များအတိုင်း လိုက်နာဆောင်ရွက်ရမည်။

## အပိုဒ် - ၁၇ အငြင်းပွားမှုများဖြေရှင်းခြင်း။

၁၇-၁ ဤသဘောတူစာချုပ်နှင့်ပါတ်သက်၍ အငြင်းပွားမှုတစ်စုံတစ်ရာပေါ်ပေါက်လာပါက နှစ်ဦးနှစ်ဖက်ပြေလည်စွာညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ဖြေရှင်း၍မရပါက ထိုအငြင်းပွားမှုကို ဥပဒေနှင့်အညီ သက်ဆိုင်ရာ စီရင်ပိုင်ခွင့်ရှိသော တရားရုံး၏ ဆုံးဖြတ်ချက်ကို ခံယူရမည်။

## အပိုဒ် - ၁၈ စာချုပ်အားပြန်လည်ပြင်ဆင်ရန်ညှိနှိုင်းခြင်း။

၁၈-၁ ဤသဘောတူစာချုပ်တွင်ပါရှိသည့် စည်းကမ်းချက်များသည် ကြိုတင်မမျှော်မှန်းနိုင်သည့် အခြေအနေတစ်ရပ်ရပ်ကြောင့် လုပ်ငန်းများဆက်လက်ဆောင်ရွက်ရန် မဖြစ်နိုင်သည့်အခါ စာချုပ်ဝင်ပုဂ္ဂိုလ်များသည် နှစ်ဦးနှစ်ဖက်ညှိနှိုင်းပြီး ပြည်ထောင်စုအစိုးရအဖွဲ့၏ အတည်ပြုချက်ရယူ၍ စာချုပ်ကိုပြင်ဆင်နိုင်သည်။

## အပိုဒ် - ၁၉ လျှို့ဝှက်ချက်

၁၉-၁ ဤသဘောတူစာချုပ်ကို လက်မှတ်ရေးထိုးချုပ်ဆိုကြသည့် နှစ်ဦးနှစ်ဖက်စလုံးသည် အရေးကြီးသောစာရွက်စာတမ်းများ၊ သတင်းအချက်အလက်များကို အခြားတတိယအဖွဲ့အစည်းသို့ လွှဲပြောင်းပေးခြင်းမပြုရ။ သို့ရာတွင် ကုမ္ပဏီ၏အကျိုးစီးပွားအလို့ငှာ ဒါရိုက်တာအဖွဲ့၏သဘောတူဆုံးဖြတ်ချက်၊ အငှားချထားသူ၏ ခွင့်ပြုချက်ဖြင့် အခြားအဖွဲ့အစည်းသို့ လွှဲပြောင်းပေးနိုင်ခွင့်ရှိစေရမည်။

အပိုဒ် - ၂၀ ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း။

၂၀-၁ အငှားချထားခြင်းခံရသူသည် လုပ်ငန်းဆောင်ရွက်ရမည့် နေရာဒေသ၏ ပတ်ဝန်းကျင်နေရာများအား ကောင်းစွာထိန်းသိမ်းကာကွယ် စောင့်ရှောက်ထားရန် တာဝန်ရှိသည်။ ထို့အပြင် လေထု၊ ရေထုနှင့် မြေထုများညစ်ညမ်းခြင်းနှင့် အခြားသောပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်ပျက်စီးဆုံးရှုံးခြင်းများအား ကာကွယ်ထိန်းချုပ်ခြင်းလုပ်ငန်းများကို ဆောင်ရွက်ရမည်။ ရေများသန့်စင်နိုင်သော စက်များတပ်ဆင်ပေးခြင်း၊ လေထုညစ်ညမ်းမှုကို မဖြစ်ပေါ်စေရန် အခိုးအငွေ့နှင့်အညစ်အမကြေးစွန့်ပစ်သည့် အစိတ်အပိုင်းများကိုအန္တရာယ်ကင်းရှင်းစေရေးဆိုင်ရာ လိုအပ်သောအကာအကွယ်များ၊ အစီအစဉ်များကို တည်ဆဲဥပဒေနှင့်အညီ ဆောင်ရွက်ထားရှိရမည်။

အပိုဒ် - ၂၁ အကြောင်းကြားစာ

၂၁-၁ နို့တစ်စာများ (သို့မဟုတ်) အခြားအချက်အလက် အကြောင်းကြားချက်များကို မြန်မာဘာသာဖြင့်ဖြစ်စေ၊ အင်္ဂလိပ်ဘာသာဖြင့်ဖြစ်စေ ရေးသားပြီး စာတိုက်ပုတ်ပုံတင်ချောစာဖြင့်ဖြစ်စေ၊ တယ်လက်(စ်)ဖြင့်ဖြစ်စေ၊ ဖက်(စ်)ဖြင့်ဖြစ်စေ၊ အပြည်ပြည်ဆိုင်ရာဆက်သွယ်ရေးနည်းစနစ်ဖြင့်ဖြစ်စေ၊ သက်ဆိုင်ရာအဖွဲ့သို့ ဆက်သွယ်ဆောင်ရွက်နိုင်သည်။ ဆက်သွယ်နိုင်ရန် လိပ်စာမှာ ဤစာချုပ်တွင် ဖော်ပြပါရှိသော အောက်ဖော်ပြပါ လိပ်စာအတိုင်းဖြစ်သည်။

(၁) **"အငှားချထားသူ"အတွက်-**

| | |
|---|---|
| (၁) အမည် | ဒေါက်တာညီညီကျော် |
| (၂) ရာထူး | ညွှန်ကြားရေးမှူးချုပ် |
| (၃) လိပ်စာ | သစ်တောဦးစီးဌာန၊ နေပြည်တော်၊ ရုံးအမှတ် (၂၈) |
| (၄) ဖုံးအမှတ် | ၀၆၇-၄၀၅၀၁၅ |
| (၅) ဖက်(စ်)အမှတ် | ၀၆၇-၄၀၅၄၂၇ |

(၂) **"အငှားချထားခြင်းခံရသူ"အတွက် -**

| | |
|---|---|
| (၁) အမည် | ဒေါက်တာမျိုးသက် |
| (၂) ရာထူး | မန်နေဂျင်းဒါရိုက်တာ |
| (၃) လိပ်စာ | ရွှေပြည်အေး ခရီးသွားလုပ်ငန်း ကုမ္ပဏီလီမိတက် |
| (၄) ဖုံးအမှတ် | ၀၁-၃၇၇၁၈၂ |
| (၅) Email | spatours.myanmar@gmail.com |

၂၁-၂ ယခုကဲ့သို့ စာရွက်စာတမ်းများကို ပေးပို့ဆက်သွယ်သည့်အခါများတွင် အခြားတစ်ဖက်မှ လက်ခံရရှိကြောင်း အထောက်အထား တစ်စုံတစ်ရာရရှိပြီးမှသာ ပေးပို့ခြင်းကိုအတည်ပြုနိုင်သည်။ အကယ်၍လိပ်စာအပြောင်းအလဲရှိပါက စာဖြင့်အခြားတစ်ဖက်သို့ ရေးသားအကြောင်းကြားရမည်။

## အပိုဒ် - ၂၃ လုပ်ငန်းများလွှဲပြောင်းပေးအပ်ခြင်း

၂၃-၁ စာချုပ်ဝင်တစ်ဦးသည် အခြားစာချုပ်ဝင်၏ ကြိုတင်သဘောတူညီချက်မရှိဘဲ မိမိ၏အခွင့်အရေးများ၊ လုပ်ပိုင်ခွင့်များကို အခြားပုဂ္ဂိုလ်၊ အဖွဲ့အစည်းများအား လွှဲပြောင်းပေးခြင်းမပြုရ။

## အပိုဒ် - ၂၂ အထွေထွေ

၂၂-၁ ဤသဘောတူစာချုပ်ကိုလက်မှတ်ရေးထိုးခြင်း မပြုမီကဆောင်ရွက်ခဲ့သော ညှိနှိုင်းဆွေးနွေးမှုများအားလုံး၊ သဘောတူညီချက်များအားလုံး၊ နားလည်မှုများအားလုံးနှင့် စာအဆက်အသွယ်အားလုံးတို့သည် ဤသဘောတူစာချုပ်ကို လက်မှတ်ရေးထိုးသည့် အချိန်မှစ၍ ပျက်ပြယ်သည်။ ဤစာချုပ်သည် ယခင်ညှိနှိုင်းဆွေးနွေးမှုများ၊ သဘောတူညီချက်များ၊ နားလည်မှုများ၊ စာအဆက်အသွယ်များအားလုံးကို လွှမ်းမိုးစေရမည်။

၂၂-၂ ဤသဘောတူစာချုပ်၏ နောက်ဆက်တွဲများ၊ ပုံစံများ၊ စာရင်းဇယားများအားလုံးကို ဤစာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်စေရမည်၊

၂၂-၃ ဤသဘောတူစာချုပ်ကို ထပ်တူနှစ်စောင်တွင် လက်မှတ်ရေးထိုးပြီး စာချုပ်အသီးသီးသည် ဥပဒေအရ တူမျှစွာတရားဝင်လျှက် စာချုပ်ဝင်တစ်ဦးစီအတွက် မူရင်းတစ်စောင်အဖြစ်သတ်မှတ်ရမည်။

အထက်ဖော်ပြပါအချက်များကို ညှိနှိုင်းသဘောတူနားလည်လက်ခံကြပြီးဖြစ်သည့်အလျောက် စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့သည် နေပြည်တော်၌ အထက်တွင်ဖော်ပြထားသည့် (     )ရက်၊          လ၊ ၂၀၁၃ခုနှစ်တွင် အောက်ဖော်ပြပါ အသိသက်သေလူကြီးများ၏ ရှေ့မှောက်တွင် မိမိ၏ရုံးတံဆိပ်များ အသီးသီးခပ်နှိပ်လျှက် လက်မှတ်ရေးထိုး ချုပ်ဆိုကြပါသည်။

| "အငှားချထားသူ" (ကိုယ်စား) | "အငှားချထားခြင်းခံရသူ"(ကိုယ်စား) |
|---|---|
| (ဒေါက်တာညီညီကျော်)<br>ညွှန်ကြားရေးမှူးချုပ်<br>သစ်တောဦးစီးဌာန | (ဒေါက်တာမျိုးသက်)<br>မန်နေဂျင်းဒါရိုက်တာ<br>ရွှေပြည်အေးခရီးသွားလုပ်ငန်း<br>ကုမ္ပဏီလီမိတက် |

**'အသိသက်သေများ'**

| (၁) | (၂) |
|---|---|
| အမည် .................. | အမည် .................. |
| ရာထူး .................. | ရာထူး .................. |
| လိပ်စာ.................. | လိပ်စာ.................. |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန
သစ်တောဦးစီးဌာန

နှင့်

ရွှေပြည်အေးခရီးသွားလုပ်ငန်း ကုမ္ပဏီလီမိတက်
တို့အကြား

ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ်
မိုးယွန်းကြီးအင်းဘေးမဲ့တောအတွင်း
မြေ(၃၆၀)ဧက နှစ်ရှည်မြေငှားရမ်းခြင်းနှင့် ၎င်းမြေပေါ်ရှိ
အဆောက်အဦများငှားရမ်းခြင်းသဘောတူစာချုပ်

(မူကြမ်း)

ရက်စွဲ။ ။၂၀၁၄ ခုနှစ်၊.................. လ၊( ) ရက်

မိုးယွန်းကြီးအင်းဘေးမဲ့တောငှားရမ်းခြင်းသဘောတူစာချုပ်

ဤမိုးယွန်းကြီးအင်းဘေးမဲ့တော မြေငှားရမ်းခြင်းသဘောတူစာချုပ် (ဤမှနောင်တွင် သဘောတူစာချုပ်ဟုခေါ်ဆိုရမည်)ကို ၂၀၁၄ ခုနှစ်၊ ..................... လ၊...................ရက် နေ့တွင် ၊ နေပြည်တော်၌ ပြုလုပ်ချုပ်ဆိုကြသည်မှာ.........

ဒေါက်တာညီညီကျော်၊ ညွှန်ကြားရေးမှူးချုပ်ကိုယ်စားပြုသော သစ်တောဦးစီးဌာန၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန(နောင်တွင် "အငှားချထားသူ"ဟုခေါ်တွင်စေပြီး ၊ ယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်းမရှိပါကဥပဒေအရလွှဲအပ်ခြင်းခံရသူများနှင့်၊ဆက်ခံသူများပါဝင်သည်ဟု မှတ်ယူရမည်)ကတစ်ဖက်

နှင့်

ဒေါက်တာမျိုးသက်၊ မန်နေဂျင်းဒါရိုက်တာ ကိုယ်စားပြုသော ရွှေပြည်အေးခရီးသွားလုပ်ငန်းကုမ္ပဏီလီမိတက်၊ အမှတ်(၂၀၀)၊ အနောက်ရွှေဂုံတိုင်(၅)လမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး၊(နောင်တွင်"အငှားချထားခြင်းခံရသူ"ဟုခေါ်တွင်စေပြီး၊ယင်းစကားရပ်တွင်စာသားအရသော်လည်းကောင်း အဓိပ္ပါယ်အရသော်လည်းကောင်း ၊ ရှေ့နောက်ဆန့်ကျင် ကွဲလွဲခြင်းမရှိပါက၊ ဥပဒေအရခွင့်ပြုလွှဲအပ်ခံရသူများ၊ ဆက်ခံခွင့်ရှိသူများနှင့် တရားဝင်ကိုယ်စားလှယ်များပါဝင်သည်ဟုမှတ်ယူရမည်) က အခြားတစ်ဖက်တို့သည် အောက်ပါစည်းကမ်းချက်များနှင့်အညီ နှစ်ဖက်သဘောတူစာချုပ်ချုပ်ဆိုကြပါသည်။

**အပိုဒ်၊ ၁- ရည်ရွယ်ချက်**

၁-၁ "အငှားချထားခြင်းခံရသူ" သည် "အငှားချထားသူ" ပိုင်ဆိုင်သည့် မိုးယွန်းကြီးအင်းဘေးမဲ့တောအတွင်းရှိ ပဲခူးတိုင်း၊ ပဲခူးမြို့နယ်အတွင်း နောက်ဆက်တွဲ(က)ဖြင့် ဖော်ပြထားသော အတည်ပြုပြီးမြေပုံပါ မြေကွက်နှင့် ယင်းမြေကွက်ပေါ်ရှိ အပန်းဖြေစခန်းများ အဆောက်အဦတို့ကို နှစ်ရှည်ငှားရမ်းပြီး အဆောက်အဦများမှာ နှစ်ကာလကြာမြင့်သဖြင့် ယိုယွင်းပျက်စီးနေပြီး အဆင့်အတန်းနိမ့်ကျလာမှုကြောင့် ပြန်လည်အဆင့်မြှင့်တင်ခြင်း၊ ပြုပြင်ခြင်းစသည့်ဝန်ဆောင်မှုများကို BOT စနစ်ဖြင့် အပန်းဖြေစခန်းလုပ်ငန်းဆောင်ရွက်ရန်အတွက် ရည်ရွယ်ပါသည်။

၁-၂ ငှားရမ်းမည့် မြေနေရာမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

- မြေဧရိယာ(၃၆၀)ဧက (၀.၅၆၂၅ စတုရန်းမိုင်)ကို ငှားရမ်းမည်ဖြစ်ပါသည်။
- အဆောက်အဦတွင် အောက်ပါတို့ပါဝင်ပါမည်-

(က) လှေပုံစံအဆောက်အဦ (၁၀) လုံး

(ခ) မိသားစုတည်းခိုဆောင်(၂)ခန်း (၁) လုံး

(ဂ) ဘန်ဂလို(၂)ခန်းတွဲ (၁) လုံး

(ဃ) စားသောက်ဆိုင် (၁) ဆောင်

(င) သစ်သားနင်းကြမ်းလျှောက်လမ်းများ (၂) ခု

(စ) မိလ္လာစုဆောင်းကန် (၂) တွင်း

(ဆ) ၂လက်မအဝီစိတွင်း (၂) လုံး

(ဇ) ရေစင် (၁) ခု

(ဈ) အပန်းဖြေနားနေဆောင် (၄) ခု

၁-၃ ၂" အငှားချထားခြင်းခံရသူ" သည် မိုးယွန်းကြီးအင်းဘေးမဲ့တောအပန်းဖြေစခန်းဖွံ့ဖြိုးတိုးတက်ရေးအတွက် အဆင့်မြှင့်တင်ခြင်း ဝန်ဆောင်မှုလုပ်ငန်းများကို(၅)နှစ် စီမံကိန်းဖြင့် နှစ်အလိုက် အောက်ဖော်ပြပါလုပ်ငန်းများကို ဆောင်ရွက်မည်ဖြစ်ပါသည်။

(၁) ပထမနှစ်

- ငှက်ကြည့်စင်အသစ်(၁)စင်တည်ဆောက်ခြင်း၊
- တဲတားများအချို့ အသစ်ပြန်လည်တည်ဆောက်ခြင်း၊ (လက်ရှိတဲတားများ၏ အောက်ခြေပိုင်းတိုင်/တန်းများအားကွန်ကရစ်ဖြင့် အစားထိုးပြောင်းလဲ၍ ကြမ်းခင်းများကို သဘာဝနှင့်လျော်ညီစွာ သစ်သားကြမ်းခင်းများဖြင့် အစားထိုးပြင်ဆင်ခြင်း၊
- မူလနားနေဆောင်များအားလုံးကို လိုအပ်သည်များ ပြန်လည်ပြုပြင်မွမ်းမံခြင်း၊

(၂) ဒုတိယနှစ်

- လှေပုံစံအိပ်ခန်းဆောင်(၂)ဆောင်အသစ် တိုးချဲ့တည်ဆောက်ခြင်း၊
- မိသားစုနားနေဆောင်များ လိုအပ်သည့် အကြီးစားပြင်ဆင်မွမ်းမံခြင်း၊
- သုတေသန စခန်းစတင်တည်ဆောက်ခြင်း၊

(၃) တတိယနှစ်

- လှေပုံစံအိပ်ခန်းဆောင်(၂)ဆောင် အသစ်တိုးချဲ့တည်ဆောက်ခြင်း၊
- သုတေသနစခန်း အပြီးသတ်တည်ဆောက်ခြင်းနှင့် သုတေသနအထောက် အကူပစ္စည်းများတပ်ဆင်ဖြည့်တင်းခြင်း၊

(၄) စတုတ္ထနှစ်

- လှေပုံစံအိပ်ခန်းဆောင် အသစ်(၁)ဆောင် အပြီးသတ်တည်ဆောက်ခြင်း၊

- လက်ရှိအဆောက်အဦများ တံတားများကို လိုအပ်သည့် အသစ်အစားထိုး ပြင်ဆင်မွမ်းမံခြင်း။

(၅) ပဥ္စမနှစ်

- အထွေထွေပြင်ဆင်ခြင်း။

၁-၄ "အငှားချထားခြင်းခံရသူ" သည် အဆိုပြုလုပ်ငန်းများအား ရင်းနှီးမြှုပ်နှံမှုပမာဏ ကျပ်သန်း ၃၈၀ (ကျပ်သန်းသုံးရာရှစ်ဆယ်တိတိ)ထည့်ဝင်၍ လုပ်ကိုင်ဆောင်ရွက်မည်ဖြစ်ပါသည်။

**အပိုဒ်၊ ၂ - ကိုယ်စားပြုခြင်းနှင့် အာမခံခြင်း**

၂-၁ ဤသဘောတူစာချုပ်တွင် လက်မှတ်ရေးထိုးချုပ်ဆိုကြသည့် စာချုပ်ဝင်များအနက် "အငှားချထားသူ" သည် နောက်ဆက်တွဲ(က)ပါ ငှားရမ်းမည့်မြေနှင့် ယင်းမြေကွက်ပေါ်ရှိ အဆောက်အဦအားလုံးတို့ကိုတရားဝင်ပိုင်ဆိုင်ခွင့်ရှိကြောင်းနှင့် "အငှားချထားခြင်းခံရသူ" သည် တည်ဆဲဥပဒေများအရ ဤသဘောတူစာချုပ်ပါ လုပ်ငန်းများကို လုပ်ကိုင်ခွင့်ရှိသော ပုဂ္ဂိုလ်ဖြစ်ပြီး ဤသဘောတူစာချုပ်ကို ချုပ်ဆိုနိုင်ရန် ဥပဒေအရ လုပ်ပိုင်ခွင့်အာဏာနှင့် စီးပွားရေးအရ ငွေရေးကြေးရေးခိုင်မာတောင့်တင်းသူဖြစ်ကြောင်း အာမခံပါသည်။

**အပိုဒ်၊ ၃- ကြိုတင်စည်းကမ်းသတ်မှတ်ချက်များ**

၃-၁ ဤသဘောတူစာချုပ်ပါ စည်းကမ်းသတ်မှတ်ချက်အတိုင်း လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်ရာတွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း သက်ဆိုင်ရာအစိုးရဌာန အာဏာပိုင်အဖွဲ့အစည်းများထံမှ ရယူရန်လိုအပ်သည့် အတည်ပြုချက်များ၊ ခွင့်ပြုမိန့်များ ရရှိပြီး မှသာ လုပ်ငန်းများ အကောင်အထည်ဖော်ဆောင်ရွက်ရန် သတ်မှတ်ထားပါသည်။

**အပိုဒ်၊ ၄ - ဥပဒေအရဆောင်ရွက်ခြင်း**

၄-၁ ဤသဘောတူစာချုပ် ပြုလုပ်ချုပ်ဆိုသူများသည် စာချုပ်ပါကာဝန်ဝတ္တရားများ လုပ်ငန်းအကောင်အထည်ဖော်မှုများ၊ လုပ်ငန်းဆောင်ရွက်မှုများကို လိုက်နာဆောင်ရွက်ရမည်။

**အပိုဒ်၊ ၅ - ငှားရမ်းခြင်းသက်တမ်းကာလ**

၅-၁ ဤသဘောတူစာချုပ်ပါ ငှားရမ်းခြင်းသက်တမ်းကာလမှာ ဤသဘောတူစာချုပ် စတ အကျိုးသက်ရောက်သည့်နေ့မှ ကနဦးနှစ်(၃၀)ဖြစ်ပါသည်။

၅-၂ ငှားရမ်းခြင်းသက်တမ်း ကနဦးနှစ်(၃၀) ကုန်ဆုံးသည့်အခါ နှစ်ဦးနှစ်ဖက် ညှိနှိုင်း နောက်ထပ်(၅)နှစ် (၂)ကြိမ်သက်တမ်းတိုးခွင့်ရှိသည်။

၅-၃ ဤသဘောတူစာချုပ်ပါ ငှားရမ်းခြင်း ၊ သက်တမ်းတိုးမြှင့်ခြင်းသည် ပြည်ထောင်စုအစိုးရ အဖွဲ့သို့ တင်ပြအတည်ပြုချက်ရရှိမှသာ အကျိုးသက်ရောက်မှုရှိစေရမည်။

၅-၄ အငှားချထားသူသည် အငှားချထားသည့် မြေနှင့် အဆောက်အဦများကို ဤသဘောတူ စာချုပ်အား တရားဝင်အတည်ပြုလက်မှတ်ရေးထိုးသည့်နေ့မှစ၍ အငှားချထားခြင်းခံရသူ သို့လွှဲပြောင်းပေးအပ်ရမည်။

**အပိုဒ်၊ ၆ - အကျိုးသက်ရောက်သည့်နေ့**

၆-၁ ဤသဘောတူစာချုပ်သည် သက်ဆိုင်ရာ အာဏာပိုင်အဖွဲ့အစည်းများ၏ ခွင့်ပြုမိန့်ရရှိပြီး နောက် စာချုပ်ဝင်ပုဂ္ဂိုလ်များ နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးချုပ်ဆိုသည့် နေ့မှစတင်၍ အကျိုးသက်ရောက်မှုရှိစေရမည်။

**အပိုဒ်၊ ၇ - ငှားရမ်းခပေးချေခြင်း**

၇-၁ " အငှားချထားခြင်းခံရသူ" သည် အငှားချသည့် မြေဧရိယာ(၃၆၀) ဧကအား (၀.၅၆၂၅ စတုရန်းမိုင်) နှင့်အဆောက်အဦများငှားရမ်းခြင်းအတွက် တစ်လျှင်လျှင် ငှားရမ်းခငွေ ကျပ် ၁၅၀၀၀၀၀ (ကျပ်တစ်ဆယ့်ငါးသိန်းတိတိ)ကို အငှားချထားသူထံသို့ ဤစာချုပ်ကို နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးပြီး ရက်ပေါင်း(၆၀)အတွင်း ကြိုတင်၍ပေးသွင်းရမည် ၊ နောင်နှစ်များတွင်လည်း နှစ်စဉ်သက် တမ်းမစတင်မီ ရက်ပေါင်း(၆၀)အတွင်း ကြိုတင်၍ ပေးသွင်းရမည်။ အကယ်၍ သတ်မှတ်ကာလထက် နောက်ကျပြီးပေးသွင်းပါက တစ်ရက် လျှင်ဒဏ်ကြေးငွေကျပ် (၅၀၀၀)ကျပ် နှုန်း ပေးဆောင်ရမည်။

၇-၂ ငှားရမ်းခနှုန်းထားများကို (၃)နှစ်တစ်ကြိမ် ပြန်လည်ပြင်ဆင်သတ်မှတ်ရန်နှင့် စာချုပ်ပြန် လည်ချုပ်ဆိုသည့်အခါ ကာလဒေသပေါက်ဈေးနှင့် နှစ်ဖက်ညှိနှိုင်း၍ လက်ရှိစာချုပ်ပါ ငှားရမ်းခ၏ ၁၀%ထက်မပိုသော နှုန်းထားဖြင့် ပြန်လည်ပြင် ဆင်သတ်မှတ်သွားမည်ဖြစ် ပါသည်။

**အပိုဒ်၊ ၈ - အငှားချထားသူ၏ တာဝန်ဝတ္တရားများ**

၈-၁ အငှားချထားသူသည် အောက်ပါတာဝန်ဝတ္တရားများအတိုင်း လိုက်နာဆောင်ရွက်ရမည်-

(၁) အငှားချထားသည့် မြေအတွက် မြေခွန်ကိုပေးဆောင်ရမည်။

(၂) အငှားချထားခြင်းခံရသူ၏ ဤသဘောတူစာချုပ်ပါ လုပ်ငန်းများကို အကောင် အထည်ဖော်ဆောင်ရွက်နိုင်ရန်နှင့် လုပ်ငန်းအတွက် လိုအပ်သော ပစ္စည်းများဝယ်ယူ တင်သွင်းနိုင်ရန် ကူညီဆောင်ရွက်ပေးရမည်။

(၃) လိုအပ်သောခွင့်ပြုချက်များ၊ မှတ်ပုံတင်မှုများ၊ လိုင်စင်များကို သက်ဆိုင်ရာအဖွဲ့အစည်းများထံမှရယူရာတွင် ကူညီဆောင်ရွက်ပေးရမည်။

(၄) အငှားချထားခြင်းခံရသူက ဤမြေနှင့်အဆောက်အအုံငှားရမ်းလုပ်ကိုင်ခြင်းအတွက် နိုင်ငံတော်အဖွဲ့အစည်းများသို့ ပေးချေရမည့် အခွန်အခများအားလုံးကို မြန်မာကျပ်ငွေဖြင့်ပေးချေနိုင်ရန်အတွက်အငှားချထားသူက ကူညီဆောင်ရွက်ပေးရမည်။အငှားချထားခြင်းခံရသူက တည်ဆဲဥပဒေအရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ၊ ခံစားခွင့်ရရှိပါက ထိုသို့လျှောက်ထားရာတွင် ကူညီဆောင်ရွက်ပေးရမည်။

(၅) အငှားချထားသည့် မြေတွင် အဆောက်အုံများကို ပိုမိုတိုးတက်ကောင်းမွန်စေရေးအတွက်လိုအပ်သော တည်ဆောက်မွမ်းမံပြင်ဆင်မှုများပြုလုပ်နိုင်ရန် အငှားချထားခြင်းခံရသူသို့ ခွင့်ပြုပေးရမည်။

**အပိုဒ်၊ ၉ - အငှားချထားခြင်းခံရသူ၏ တာဝန်ဝတ္တရားများ**

၉-၁ "အငှားချထားခြင်းခံရသူ" သည် အောက်ပါတာဝန်ဝတ္တရားများအတိုင်း လိုက်နာဆောင်ရွက်ရမည်။

(၁) နိုင်ငံတကာအဆင့်မီ ဟိုတယ်နှင့် အပန်းဖြေစခန်းဆောက်လုပ်ခွင့်ရရှိခြင်းအတွက် အငှားချထားခြင်းခံရသူသည် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနမှ သတ်မှတ်ပေးသော မြေနေရာတွင် စာချုပ်(မူကြမ်း)အပိုဒ်-၁ ၊ အပိုဒ်ခွဲ - ၁-၃၊ နှစ်အလိုက်ဆောင်ရွက်ရမည့် လုပ်ငန်းများတွင် ပါရှိသည့်လှေပုံစံ အိပ်ခန်းဆောင်(၅)ဆောင်အား ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနနှင့် သစ်တောဦးစီးဌာနတို့၏ သဘောတူညီချက်နှင့်အညီ နောက်ဆက်တွဲ(ခ)ပါသတ်မှတ်ထားသည့် စံနှုန်းအတိုင်းတည်ဆောက်ပြီး၊ မြန်မာ့ယဉ်ကျေးမှုရိုးရာဓလေ့များ မပျက်စီးစေပဲအပန်းဖြေစခန်းကို တည်ဆောက်ရမည်။

(၂) အငှားချထားခြင်းခံရသူသည် နှစ်စဉ်ငှားရမ်းခငွေများကို ဤသဘောတူစာချုပ်ပါစည်းကမ်းချက်များနှင့်အညီ သတ်မှတ်ထားသည့် ကာလအတွင်း အငှားချထားသူသို့ မပျက်မကွက်ပေးချေရမည်။

(၃) အငှားချထားစဉ်ကာလအတွင်း အငှားချထားသည့် မြေပေါ်တွင် စီးပွားရေးလုပ်ငန်းများဆောင်ရွက်ရာ၌ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၏ တည်ဆဲဥပဒေများအရ လိုအပ်သောခွင့်ပြုမိန့်များ၊ လိုင်စင်များရယူပြီး ဆောင်ရွက်ရမည် ။

(၄) အငှားချထားသည့် မြေနှင့် အဆောက်အဦပေါ်တွင် အဓိကပြုပြင်ပြောင်းလဲမှုများ ပြုလုပ်ခြင်းအတွက် အငှားချထားသူထံမှ စာဖြင့်ကြိုတင်သဘောတူညီ ခွင့်ပြုချက် ရယူပြီးမှသာလျှင် ဆောင်ရွက်ရမည်။ အငှားချထားစဉ်ကာလအတွင်း အငှားချထားသည့်မြေပေါ်တွင် ဟိုတယ်အဆောက်အအုံများကို တည်ဆောက်ခြင်း၊ ပြုပြင်မွမ်းမံပြင်ဆင်ခြင်း၊ တိုးချဲ့တည်ဆောက်ခြင်း၊ လမ်းဖောက်လုပ်ခြင်း၊ လျှပ်စစ်မီးနှင့် ရေရရှိရေး လုပ်ငန်းများဆောင်ရွက်ခြင်း စသည်တို့ကို မိမိ၏ ကုန်ကျစရိတ်ဖြင့် တာဝန်ယူဆောင်ရွက်ပေးရမည်။

(၅) အငှားချထားသည့်မြေပေါ်တွင် အဆိုပြုလုပ်ငန်းအား ဆက်လက်လုပ်ကိုင်ရန် တစ်ဆင့်ငှားရမ်းခြင်း၊ ထပ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်း၊ ပေါင်နှံခြင်းစသည်တို့ကို လုံးဝမပြုလုပ်ရ။

(၆) ဤသဘောတူစာချုပ်အား တည်ဆဲဥပဒေအရ တံဆိပ်ခေါင်းခွန်၊ ကင်းလွတ်ခွင့် (သို့မဟုတ်)သက်သာခွင့်မရရှိသေးလျှင်ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များထမ်းဆောင်ရမည်။

(၇) အငှားချထားစဉ်ကာလအတွင်း မြေခွန်မှအပ လုပ်ငန်းနှင့်သက်ဆိုင်သော အခြားအခွန်အခများကို အချိန်မှန်မှန်ပေးဆောင်ရမည်။

(၈) ဟိုတယ်နှင့်တည်းခိုခန်းလုပ်ငန်းများ ဆောင်ရွက်ခွင့်ရရှိရန်အတွက် ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၏ ခွင့်ပြုမိန့်လိုင်စင်ရယူရမည်။

(၉) အငှားချထားခြင်းခံရသူသည် နိုင်ငံတော်နှင့်သက်ဆိုင်ရာဝန်ကြီးဌာနမှ သတ်မှတ်ထားသည့် စည်းကမ်းချက်ကို လိုက်နာရမည့်အပြင် လောင်းကစားခြင်း၊ မြန်မာ့ယဉ်ကျေးမှုနှင့်ဆီလျော်မှုမရှိသည့် စင်တင်တေးဂီတပြုလုပ်ခြင်း၊ သရုပ်ပျက်ခြင်း စသည့် တားမြစ်ချက်များကို လိုက်နာရမည်။

**အပိုဒ်၊ ၁၀- အာမခံထားရှိခြင်း**

၁၀-၁ "အငှားချထားခြင်းခံရသူ" သည် ဤသဘောတူစာချုပ်ပါ လုပ်ငန်းများဆောင်ရွက်ရာတွင် လိုအပ်သောအာမခံများကို သစ်တောဦးစီးဌာနအမည်ဖြင့် မြန်မာ့အာမခံဥပဒေနှင့် အညီ ထားရှိရမည်။

၁၀-၂ "အငှားချထားခြင်းခံရသူ"သည် အထက်အပိုဒ်(၁-၂)ပါ ငှားရမ်းမြေ(၃၆၀) ဧကအတွက် စာချုပ်ချုပ်ပြီး ရက်ပေါင်း(၆၀)အတွင်း မြေအသုံးချမှု **ပရီမီယံ မြန်မာ့အာမခံဥပဒေပါ** ပြဋ္ဌာန်းချက်နှင့်အညီထားရှိရမည်။

